ပုံစံ(မနသ-၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၂၁၆/၉၉ ၁၉၉၉ ခုနှစ်၊ ဇွန် လ ၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဒေါက်တာ ဘလဂျာ

(ခ) အဘအမည် ဦး လခင်တူး

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁/မကန(နိုင်)၁၀၂၇၄၉

(ဃ) နေရပ်လိပ်စာ အမှတ်-၄၄၆၊ ယုဇနရပ်ကွက်၊ မြစ်ကြီးနားမြို့နယ်၊ ကချင်ပြည်နယ်

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ဘူးဂါး ကုမ္ပဏီလီမိတက် (Bu Ga Company Limited)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား သစ်အခြေခံတန်ဖိုးမြှင့် ကုန်ချောပစ္စည်းများနှင့် ပရိဘောဂထုတ်လုပ်ခြင်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ကျခန်းဒတ်ကျေးရွာ၊ မိုးမောက်မြို့နယ်၊ ဗန်းမော်ခရိုင်၊ ကချင်ပြည်နယ်။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၅၈.၁၀) သန်း (ကျပ်ငါးဆယ့်ရှစ်သန်း တစ်သိန်း ကျော်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၄၆/၉၉ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၁ ခုနှစ်၊ နယုန်လပြည့်ကျော် ၆ ရက်။
(၁၉၉၉ ခုနှစ်၊ ဇွန်လ ၄ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.)သည် ကေအိုင်အို (ဗဟို) စီးပွားရေး အဖွဲ့ထံမှ ၁၉၅၃ခုနှစ် လယ်ယာမြေ နိုင်ငံပိုင်ပြုလုပ်ရေး အက်ဥပဒေပုဒ်မ–၃၉ ဖြင့် သစ်အခြေခံ ကုန်ချောစက်ရုံ မြေအဖြစ် ဆောင်ရွက်ခွင့် ရရှိထားပြီးဖြစ်သော ကချင်ပြည်နယ်၊ ဗန်းမော်ခရိုင်၊ မိုးမောက်မြို့နယ်၊ ကျွန်းဒတ်ကျေးရွာရှိ မြေ(၃.၄၄)ဧက (၁၃၉၂၁.၂၀ စတုရန်းမီတာ) ကို ငှါးရမ်း၍ စက်ရုံတည်ဆောက်ပြီး သစ်အခြေခံ တန်ဖိုးမြှင့် ကုန်ချောပစ္စည်းများနှင့် ပရိဘောဂ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၁၄–၅–၉၉) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၈/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ(၂၄–၅–၉၉)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၁၉/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.)အား သစ်အခြေခံ တန်ဖိုးမြှင့် ကုန်ချောပစ္စည်းများနှင့် ပရိဘောဂ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက်ခွင့်ပြုမိန့် အမှတ်၊ မနသ– ၂၅၆/၉၉ ကို ထုတ်ပေးလိုက်သည်။

၂။ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည် ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ) အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် **သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ကုန်ဆုံးပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့** တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List)

များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများနှင့် လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့် အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိပဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ အဆိုပြုချက်နှင့်အတူ ပူးတွဲတင်ပြသည့် သက်ဆိုင်ရာစာချုပ်စာတမ်းများကို တည်ဆဲဥပဒေများနှင့်အညီ ကုမ္ပဏီအား တရားဝင် ဖွဲ့စည်းတည်ထောင်ပြီးမှသာ နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုး ချုပ်ဆိုကြရမည်။

၇။ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၈။ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.) သည် ကုန်ချော ပစ္စည်းများအား ပြည်ပသို့ တင်ပို့ရောင်းချရာတွင် သစ်တောရေးရာ ဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် မူဝါဒနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

၉။ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၁၀။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေအငှါးချထားသူ ကေအိုင်အို (ဗဟို) စီးပွားရေး အဖွဲ့နှင့် အငှါးချထားခြင်း ခံရသူ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.) တို့ချုပ်ဆိုမည့် မြေငှါး သဘောတူ စာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်း သဘောတူ စာချုပ် မိတ္တူ (၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၂။ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခြင်း ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၃။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၄။ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၅။ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၃၅၆/၉၉ (၂၀၇၂)
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဇွန်လ ၄ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၆။ အလုပ်သမား ဝန်ကြီးဌာန။
၇။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၈။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၉။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၀။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၁။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၂။ သစ်တောရေးရာ ဝန်ကြီးဌာန။

၁၃။ ကချင်ပြည်နယ် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီရုံး။
၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ သစ်လုပ်ငန်း။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာန။
၂၇။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၈။ မန်နေဂျင်း ဒါရိုက်တာ၊ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.)။

အမိန့်အရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

၄.၂.၉၉

## မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ

## တင်ပြလာသည့်အဆိုပြုလုပ်ငန်း ။

(၁) ကုမ္ပဏီအမည် - ဘုန်းဂါး ကုမ္ပဏီလီမိတက်၊ မြို့၊ မောက်မြို့နယ်၊ မြို့ဥဒင်မြို့နယ်၊

(၂) တင်ပြသည့်လုပ်ငန်း အမျိုးအစား - ဝါးအခြေခံ တန်ဖိုးမြင့် ကုန်ချောပစ္စည်းများနှင့် ပရိဘောဂထုတ်လုပ်ခြင်း

(၃) ကုမ္ပဏီမှတ်ပုံတင်ခွင့်ပြုသည့်နေ့ (၁၆.၂.၉၇) (၁၂၃၆ / ၁၉၉၄-၁၉၉၇)

(၄) ကုမ္ပဏီ၏သတ်မှတ်မတည့်ငွေရင်း : ကျပ် ၂၀၀,၀၀၀,၀၀၀ (ကျပ်သိန်းနှစ်ရာတိတိ) ဖြစ်ပြီး ငွေကျပ် ၁၀၀,၀၀၀ (ကျပ်တစ်သိန်းတိတိ) တန် အစုရှယ်ယာပေါင်း (၂,၀၀၀) ခွဲထားမှု

(၅) အဆိုပြုသည့်လုပ်ငန်း အတွက် မတည့်ငွေရင်း ၅၈.၅၈ သန်း

(၆) ဒါရိုက်တာများ၏အမည်စာရင်း

① ဒေါက်တာလကျာ — ဥက္ကဋ္ဌဒါရိုက်တာ

② ဦးအောင်ခေါင် — ဒါရိုက်တာ / အထွေထွေမန်နေဂျာ

③ ဦးအောင်ဒါ — ဒါရိုက်တာ / [illegible]

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ
သစ်တောရေးရာ ဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၂/၂၃၀(င)(၄)/(၁၈၀/၉၉)
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ မတ်လ ၃၀ ရက်

အကြောင်းအရာ။ ဘူးဂါးကုမ္ပဏီလီမိတက်မှ ကချင်ပြည်နယ်၊ ဗန်းမော်ခရိုင်၊ မိုးမောက်မြို့နယ်တွင် သစ်အခြေခံစက်ရုံတည်ထောင်၍သစ်အချောထည်များထုတ်လုပ်လိုခြင်းအပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၁၁ - ၂ - ၉၉ ရက်စွဲပါစာအမှတ်၊ ရက-၁/ မ-၃၅၆/၉၈ (၁၁၉၄၂)

၁။ အထက်ရည်ညွှန်းစာပါ ဘူးဂါးကုမ္ပဏီလီမိတက်မှ ကချင်ပြည်နယ် ၊ ဗန်းမော်ခရိုင်၊ မိုးမောက်မြို့နယ်၊ ကျခန်းဒတ်ကျေးရွာ၊ ကွင်းအမှတ်၊ အိုအက်စ်အက်စ်ရှိ လ/ န-၃၉ ရှိပြီး ၊ မြေ (၃.၄၄)ဧကပေါ်တွင် သစ်အခြေခံစက်ရုံတည်ဆောက်ပြီး သစ်အချောထည်များ ထုတ်လုပ်လိုခြင်း ကိစ္စနှင့်ပတ်သက်၍ သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ သစ်တောရေးရာဝန်ကြီးဌာန လက်အောက်ရှိ မြန်မာ့သစ်လုပ်ငန်းမှ ဘူးဂါးကုမ္ပဏီလီမိတက်မှ တာဝန်ရှိပုဂ္ဂိုလ်များနှင့် တွေ့ဆုံမေးမြန်းစိစစ်ချက်အရ ၊ ၄င်းတို့ ကုမ္ပဏီအတွက် နှစ်စဉ်လိုအပ်သည့် ကုန်ကြမ်းဖြစ်သော ကျွန်းသစ်လုံးတန် ( ၅၀၀)၊ ကျွန်းကိုင်းဖျားကိုင်းနားတန် (၂၈၀၀)၊ သစ်မာသစ်လုံးတန်(၃၆၀၀) နှင့် အထပ်သားချပ်ရေ (၈၀၀၀) တို့ကို မြန်မာ့သစ်လုပ်ငန်းမှ တင်ဒါစနစ်ဖြင့် လည်းကောင်း၊ သစ်တောထွက်ပစ္စည်းဖက်စပ်ကော်ပိုရေးရှင်း လီမိတက်မှလည်းကောင်း၊ အခြားတရားဝင်သစ် ဝယ်ယူထုတ်လုပ်ခွင့် ရရှိထားသော ပုဂ္ဂလိကလုပ်ငန်းရှင်များ ထံမှလည်းကောင်း ဝယ်ယူသွားမည်ဖြစ်ကြောင်းနှင့် ထွက်ရှိလာသော ကုန်ချောများ၏(၅၀%)ကို ပြည်ပသို့တင်ပို့ရောင်းချပြီး၊ကျန်(၅၀%)ကို ပြည်တွင်းတွင် ဖြန့်ဖြူးရောင်းချသွားမည်ဖြစ်ကြောင်း သိရှိရပါသည်။

၃။ သစ်တောရေးရာဝန်ကြီးဌာနအနေဖြင့် သစ်အခြေခံလုပ်ငန်းများ၌ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် ကုမ္ပဏီများသို့ ကျွန်းသစ်လုံးများကို အမေရိကန်ဒေါ်လာဖြင့်သာ တင်ဒါဈေးနှုန်းအတိုင်း ရောင်းချပေးပြီး တရားဝင်လမ်းကြောင်းများမှ မြန်မာကျပ်ငွေဖြင့် ဝယ်ယူရရှိထားသော သစ်မာသစ်လုံးကုန်ကြမ်းများမှ ထွက်ရှိလာသော ကုန်ချောပစ္စည်းများကို ပြည်ပသို့တင်ပို့ရောင်းချလိုပါက ရောင်းချရရှိသည့် နိုင်ငံခြားငွေ၏ (၁၀%)ကို နိုင်ငံတော် (မြန်မာ့သစ်လုပ်ငန်း)သို့ ပေးသွင်းပြီးမှသာ တင်ပို့ခွင့်ပြုသည့် " မူ " သတ်မှတ်ထားရှိပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားလာသော ဘူးဂါးကုမ္ပဏီလီမိတက်မှ ကချင်ပြည်နယ် ၊ ဗန်းမော်ခရိုင် ၊ မိုးမောက်မြို့နယ်တွင် သစ်အခြေခံစက်ရုံ တည်ဆောက်လိုခြင်း ကိစ္စနှင့်

ပတ်သက်၍ အထက်ဖေါ်ပြပါ သစ်တောရေးရာဝန်ကြီးဌာနမှ သတ်မှတ်ထားသော " မူ " ဘောင်အတွင်းမှ ဆောင်ရွက်သွားမည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
( ဘချို ၊ ရုံး အ ဖွဲ့ မှူး )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မိတ္တူ -မြန်မာ့သစ်လုပ်ငန်း

ကော်မရှင်၏ ၃၁ / ၂၀၀၀ အစည်းအဝေး

အကြောင်းအရာ။ ။ **လန် (၃၉) မြေ လျှောက်ထားပြီး စက်မှုလုပ်ငန်းများ နှင့်ငါး / ပုဇွန်မွေးမြူရေး လုပ်ငန်းများ ဆောင်ရွက်ခြင်း အတွက် မြေငှါး ရမ်း ခ ကောက်ခံရန်ကိစ္စ။**

၁။ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့မြန်မာနိုင်ငံသား ပုဂ္ဂလိကလုပ်ငန်းရှင်များ နှင့်ကုမ္ပဏီများ မှလယ်ယာ မြေကိုအခြား နည်း ဖြင့်အသုံး ပြုရန်အတွက်လန် (၃၉) လျှောက်ထားပြီး ၊ ယင်း မြေပေါ်တွင်စက်မှုလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုရန်အဆိုပြုချက်များ တင်ပြကြပါသည်။ သို့ပါ၍မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်အနေဖြင့်အဆိုပါလန် (၃၉) မြေများ ပေါ်တွင်လုပ်ငန်းဆောင် ရွက်ခြင်း အတွက် မြေငှါး ရမ်း ခအဖြစ်ကချင်ပြည်နယ်တွင်တစ်ဧကလျှင်တစ်နှစ်အတွက် ကျပ် ၂၀၀၀ နှုန်း ၊ မန္တလေး တိုင်း တွင်ကျပ် ၄၀၀၀ နှုန်း၊ ပဲခူး တိုင်း တွင် ကျပ် ၆၀၀၀ နှုန်း နှင့်ရန်ကုန်တိုင်း တွင်ကျပ် ၈၀၀၀ နှုန်း များ ဖြင့်အထွေထွေ အုပ်ချုပ်ရေး ဦး စီး ဌာနမှ ကောက်ခံရန်သတ်မှတ်ခဲ့ပါသည်။

၂။ အဆိုပါသတ်မှတ်ချက်နှင့်အညီ ကော်မရှင်မှလန် (၃၉) ဖြင့်လုပ်ကိုင် ခွင့်ပြုခဲ့သောလုပ်ငန်း များ ၏ မြေ များ အပေါ် ငှါး ရမ်း ခ ကောက်ခံရန်ညွှန်ကြား ရေး မှူး ချုပ်၊ အထွေထွေအုပ်ချုပ် ရေး ဦး စီး ဌာနသို့အကြောင်း ကြား ရမည်ဖြစ် ပါသည်။

၃။ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သည်မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေအရခွင့်ပြုမိန့်ကိုအမိန့် ကြော်ငြာစာထုတ်ပြန်၍ ပေး ရာယင်း အမိန့် ကြော်ငြာစာတွင် "အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြု မှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်း မည့် စည်း ကမ်း သတ်မှတ်ချက်များ ကိုတိကျစွာလိုက်နာ ဆောင်ရွက်ရမည်" ဟု၍ ပါရှိရာ ၊ ကော်မရှင်ခွင့်ပြုမိန့်ဖြင့်လန် (၃၉) မြေတွင်လုပ်ငန်း ဆောင်ရွက်လျက်ရှိ သော ကုမ္ပဏီများ အား ကျသင့် သော နှစ်စဉ် မြေအသုံး ပြုခ ကောက်ခံရန်အတွက်အထွေထွေ အုပ်ချုပ် ရေး ဦး စီး ဌာနသို့အကြောင်း ကြား ရန် <u>ပူး တွဲ</u> ပါဇယား ဖြင့်ပြုစု တင်ပြအပ်ပါသည်။

၄။ အထက်ဖော်ပြပါပူးတွဲဇယားတွင် မွန်ပြည်နယ်နှင့်ဧရာဝတီတိုင်း တို့ပါဝင်နေပါသည်။ ယခုအခါတိုင်းရင်းသားလုပ်ငန်းရှင်များ အနေဖြင့်၊ ပြည်နယ်/တိုင်း အသီးသီး၌ လန(၃၉) ရ၍ထားသော မြေများတွင်လုပ်ငန်း ဆောင်ရွက်ရန်တင်ပြ လျှောက်၍ ကြောင်း စီစစ်တွေ့ရှိရပါသည်။

၅။ သို့ဖြစ်ပါ၍ ကော်မရှင်မှ မြေအသုံးပြုခသတ်မှတ်ထားသော ပြည်နယ်/တိုင်းများ အတွင်း လန(၃၉) မြေပေါ်တွင်လုပ်ငန်း ဆောင်ရွက် သည့်ကုမ္ပဏီများ အား ကျသင့်သော နှစ်စဉ် မြေအသုံးပြုခ ကောက်ခံရန်အတွက်၊ အထွေထွေအုပ်ချုပ်ရေး ဦးစီး ဌာနသို့ ``အကြောင်းကြားခွင့်ပြုပါရန်'' နှင့် မြေငှါး ရမ်းခနှုန်းများ မသတ်မှတ်ရသေးသော မွန်ပြည်နယ်၊ ကရင်ပြည် နယ်နှင့်ဧရာဝတီတိုင်း တို့အတွက် ``မြေငှါး ရမ်းခနှုန်း သတ်မှတ်ပေးနိုင်ရေး အတွက်'' တင်ပြလမ်းညွှန်မှုခံယူအပ်ပါသည်။



ငး / *

ဆန်/ကုဋေ မြေများ ပေါ်ကွင်းတော်မရှင်နှင့်ပြုစုနှင့်ဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများစာရင်း (ပုံ-၆)

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်း | ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ နှင့်မြေဧရိယာကျယ်အဝန်း | နှစ်စဉ်ကောက်ခံရမည့် တစ်ကြေးနှုန်း |
|---|---|---|---|---|
| ၁ | ဘူးဂ်း ကုမ္ပဏီလီမိတက် (မိုးညှင်း) | သစ်အခြေခံ တန်ဖိုး မြှင့်တင်ရန် ချောပစ္စည်းများထုတ်လုပ်ခြင်း | နန့်ပုတ် ကျေးရွာ၊ မိုးညှင်းမြို့နယ် မြစ်ကြီး နားခရိုင်၊ ကချင်ပြည်နယ် (၂.၇၅) ဧက | ကျပ်-၂၀၀၀/- |
| ၂ | ဘူးဂ်း ကုမ္ပဏီလီမိတက် (မိုးကောင်း) | ,, | ကျခန်း ဒတ် ကျေးရွာ၊ မိုးကောင်း မြို့နယ်၊ ဗန်းမော်ခရိုင်၊ ကချင် ပြည်နယ် (၃.၄၄) ဧက | ကျပ်-၂၀၀၀/- |
| ၃ | မြဘာနံ့သာ ကုမ္ပဏီလီမိ တက် | နိုင်ငံတကာအဆင့်မီ ရော်ဘာ သက်ထုတ်လုပ်ခြင်း လုပ်ငန်း | မွန်ပြည်နယ်၊ ရေးမြို့နယ်၊ မေဘူက နင် ကျေးရွာအုပ်စု၊ သင်္ချိုင်းကွင်း၊ ကွင်းအမှတ် (၁၀၆၃) ဦး ပိုင် အမှတ်အင်န်၁၀ (၂.၀) ဧက | |
| ၄ | ပ်ရမီအင်တာပရိုက်စ် ကုမ္ပဏီလီမိတက် | သစ်အခြေခံကုန်ချောများ ထုတ်လုပ်ရောင်းချခြင်း | ဦး ပိုင်အမှတ် (၁၂/၅) လှည်းစ ခန်း ကွင်းအမှတ် (၁၁၅၆)၊ ညောင်အင်း ကျေးရွာ၊ ပဲခူးမြို့ နယ်၊ ပဲခူး တိုင်း (၂.၂၅) ဧက | ကျပ်-၆၀၀၀/- |
| ၅ | ဝင်း အင် (န်) ဝင်း ပရိုဒက်ရှင်း ကုမ္ပဏီ လီမိတက် | သစ်ပင်း လွှာနှင့်သစ်အခြေခံ တန်ဖိုး မြှင့်ပစ္စည်း များ ထုတ်လုပ်ခြင်း | အမှတ် ၁၁၅၀ (က)၊ တောင်ဘိုတစ် ရာအနောက်ကွင်း ၊ တာဝသုတာ ကျေးရွာ၊ ပဲခူးမြို့နယ်၊ ပဲခူးတိုင်း (၆.၁၅) ဧက | ကျပ်-၆၀၀၀/- |

| စဉ် | ကုမ္ပဏီ အမည် | လုပ်ငန်း | ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ နှင့်မြေဧရိယာအကျယ်အဝန်း | နှစ်စဉ်ပေးဆောင်ရ မည့်တစ်ဧက နှုန်း |
|---|---|---|---|---|
| ၆ | ဖျာပုံပင်လယ်ကျွားဇိုက် ကုမ္ပဏီလီမိတက် | ငါး ၊ ပုစွန်များ အခြေခံ၍ ငှ် ရေခွာထုတ်လုပ်ခြင်း | ဦး ပိုင်အမှတ် (၃၇/၁၇) ၊အုန်း ပင်ခနီကွန်း ကွင်း ၊ ကွင်း အမှတ်၄၅၂-စီ၊ ချောင်း တွင်း ကျေး ရွာ၊ ဖျာပုံမြို့နယ်၊ ဧရာ ဝတီတိုင်း ၊ (၂.၅၆) ဧက | |
| ၇ | ရွှေမြဝတီကုမ္ပဏီလီမိ တက် | CMP စနစ်ဖြင့်သိုး မွေး ထည် ချုပ်လုပ်ငန်း | ဦး ပိုင်အမှတ် ( ၁၄) ၊ ကြံခင်းစု အ နောက်အကွက်အမှတ် (၁) ရပ် ကွက်၊ ဒေ မှတ် (၃) ၊ မြဝတီမြို့နယ်၊ ကရင်ပြည်နယ်၊ (၄.၁၅၆) ဧက | |

*၅၁၀/၁၀

ပုံစံ(မနသ-၂)

ပြည်ထောင်စုမြန်မာနိုင်ငံတော် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၄၅၇၂/

နေ့စွဲ ၄.၆.၉၉

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ - ၂၁၆ / ၉၉ ၁၉၉၉ ခုနှစ်၊ ဇွန် လ ၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဒေါက်တာလရှာ

(ခ) အဘအမည် ဦး လခင်တူး

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁/ မကန (နိုင်) ၁၀၂၇၄၉

(ဃ) နေရပ်လိပ်စာ အမှတ်- ၄၄၆၊ ယုဇနရပ်ကွက်၊ မြစ်ကြီးနားမြို့နယ်၊ ကချင်ပြည်နယ်

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ဘူးဂါး ကုမ္ပဏီလီမိတက် (Bu Ga Company Limited)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား သစ်အခြေခံတန်ဖိုးမြှင့် ကုန်ချောပစ္စည်းများနှင့်ပရိဘောဂထုတ်လုပ်ခြင်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ကူခန်းဒတ်ကျေးရွာ၊ မိုးမောက်မြို့နယ်၊ ဗန်းမော်ခရိုင်၊ ကချင်ပြည်နယ်။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၃၈.၁၀)သန်း(ကျပ်ငါးဆယ့်ရှစ်သန်းတစ်သိန်းကျော်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

<u>လျှို့ဝှက်</u>

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၄၆/၉၉ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၁ ခုနှစ်၊ နယုန်လပြည့်ကျော် ၆ ရက်။
(၁၉၉၉ ခုနှစ်၊ ဇွန်လ ၄ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.)သည် ကေအိုင်အို (ဗဟို) စီးပွားရေး အဖွဲ့ထံမှ ၁၉၅၃ခုနှစ် လယ်ယာမြေ နိုင်ငံပိုင်ပြုလုပ်ရေး အက်ဥပဒေပုဒ်မ–၃၉ ဖြင့် သစ်အခြေခံ ကုန်ချောစက်ရုံ မြေအဖြစ် ဆောင်ရွက်ခွင့် ရရှိထားပြီးဖြစ်သော ကချင်ပြည်နယ်၊ ဗန်းမော်ခရိုင်၊ မိုးမောက် မြို့နယ်၊ ကျခန်းဒတ်ကျေးရွာရှိ မြေ(၃.၄၄)ဧက (၁၃၉၂၁.၂၀ စတုရန်းမီတာ) ကို ငှါးရမ်း၍ စက်ရုံ တည်ဆောက်ပြီး သစ်အခြေခံ တန်ဖိုးမြှင့် ကုန်ချောပစ္စည်းများနှင့် ပရိဘောဂ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၁၄–၅–၉၉) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၈/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ(၂၄–၅–၉၉)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၁၉/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.)အား သစ်အခြေခံ တန်ဖိုးမြှင့် ကုန်ချောပစ္စည်းများနှင့် ပရိဘောဂ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက်ခွင့်ပြုမိန့် အမှတ်၊ မနသ– ၂၅၆/၉၉ ကို ထုတ်ပေး လိုက်သည်။

၂။ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည် ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ) အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင် အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် **စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။**

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List)

များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများနှင့် လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့် အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိပဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ အဆိုပြုချက်နှင့်အတူ ပူးတွဲတင်ပြသည့် သက်ဆိုင်ရာစာချုပ်စာတမ်းများကို တည်ဆဲဥပဒေများနှင့် အညီ ကုမ္ပဏီအား တရားဝင် ဖွဲ့စည်းတည်ထောင်ပြီးမှသာ နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုး ချုပ်ဆိုကြရမည်။

၇။ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် <u>ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ</u> အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၈။ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.) သည် ကုန်ချော ပစ္စည်းများအား ပြည်ပသို့ တင်ပို့ရောင်းချရာတွင် သစ်တောရေးရာ ဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် မူဝါဒနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

၉။ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၁၀။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေအငှါးချထားသူ ကေအိုင်အို (ဗဟို) စီးပွားရေး အဖွဲ့နှင့် အငှါးချထားခြင်း ခံရသူ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.) တို့ချုပ်ဆိုမည့် မြေငှါး သဘောတူ စာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်း သဘောတူ စာချုပ် မိတ္တူ (၅)စောင်ကို ဤကော်မရှင်သို့ <u>မပျက်မကွက်</u> ပေးပို့ တင်ပြရမည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၂။ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၃။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၄။ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံ ရမည်။

၁၅။ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံရမည်။

၁၆။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၃၅၆/၉၉ (၂၀၇၂)
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဇွန်လ ၄ ရက်။

<u>ဖြန့်ဝေခြင်း–</u>

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၆။ အလုပ်သမား ဝန်ကြီးဌာန။
၇။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၈။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၉။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၀။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၁။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၂။ သစ်တောရေးရာ ဝန်ကြီးဌာန။

၁၃။ ကချင်ပြည်နယ် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီရုံး။
၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်းစာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ သစ်လုပ်ငန်း။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာန။
၂၇။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၈။ မန်နေဂျင်း ဒါရိုက်တာ၊ ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.)။

အမိန့်အရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၉၈၂/၉၉ ( ၂၂၅၉ )။
ရက်စွဲ၊ ၁၉၉၉ခုနှစ်၊ မေလ ၂၁ ရက်။

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ဘူးဂါး ကုမ္ပဏီ လီမိတက် မှ သစ်အခြေခံ တန်ဖိုးမြှင့် ကုန်ချောပစ္စည်းများ နှင့် ပရိဘောဂ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဘူးဂါး ကုမ္ပဏီ လီမိတက် (Bu Ga Co., Ltd.) မှ သစ်အခြေခံ တန်ဖိုးမြှင့် ကုန်ချောပစ္စည်းများ နှင့် ပရိဘောဂ,ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၁၄-၅-၉၉) နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၈/၉၉)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရှေ့ဆိုင်း ငွေပေးချေခြင်းစနစ် သဘောတူစာချုပ် (မူကြမ်း) နှင့် မြေငှါးစာချုပ် (မူကြမ်း) တို့ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၆၉)သန်း အပါအဝင် ကျပ် (၅၈.၁၀)သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသား ကျပ် (၃.၀၀)သန်း {ကိုယ်ပိုင် နိုင်ငံခြားငွေ အမေရိကန် ဒေါ်လာ (၀.၂၀)သန်း အပါအဝင်}၊ စက်ပစ္စည်း တန်ဖိုး ကျပ် (၇.၈၁)သန်း {အမေရိကန် ဒေါ်လာ (၀.၄၉)သန်း အပါအဝင်}၊ အဆောက်အဦ တန်ဖိုး ကျပ် (၄၆.၇၉)သန်း၊ ပရိဘောဂ နှင့် လုပ်ငန်းသုံးပစ္စည်း တန်ဖိုး ကျပ် (၀.၅၀)သန်းကို ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းများကို တရုတ်ပြည်သူ့သမ္မတနိုင်ငံ Kunming Yunnan ရှိ Yunnan Yunsen Industrial General Co. မှ ရှေ့ဆိုင်း ငွေပေးချေခြင်းစနစ်ဖြင့် ရယူမည်ဖြစ်ပြီး အတိုးနှုန်း (၅)ရာခိုင်နှုန်းဖြင့် (၄)နှစ် အတွင်း ပြန်လည် ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် လ/န (၃၉) အရ၊ ကေအိုင်အို (ဗဟို) စီးပွားရေး အဖွဲ့သို့ ပရိဘောဂစက်ရုံ တည်ဆောက်ရန် ချထားပေးသော ကချင်ပြည်နယ်၊ ဗန်းမော်ခရိုင်၊ မိုးမောက်မြို့နယ်၊ ကျခန်းဒတ်ကျေးရွာ ရှိ မြေ (၃.၄၄)ဧက (၁၃၉၂၁.၂၀ စတုရန်းမီတာ) ကို ငှါးရမ်း၍ လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်း၏ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| စဉ် | အကြောင်းအရာ | ရေတွက်ပုံ | ပြည်တွင်းရောင်း | | ပြည်ပရောင်း | |
|---|---|---|---|---|---|---|
| | | | အရေအတွက် | ရောင်းဈေးနှုန်း (ကျပ်) | အရေအတွက် | ရောင်းဈေးနှုန်း (US$) |
| ၁။ | Flooring | တန် | ၂၀၀ | ၆၁၅၀၀ | ၂၀၀ | ၁၉၀၀ |
| ၂။ | PTG | တန် | ၁၀၀ | ၆၁၅၀၀ | ၁၅၀ | ၂၂၀၀ |
| ၃။ | Student Chair | ယူနစ် | ၁၀၀၀၀ | ၂၁၆၀ | | |
| ၄။ | Combine Desk | ။ | ၈၀၀၀ | ၃၉၆၀ | | |
| ၅။ | Black Board (W/Stand) | ။ | ၇၅၀၀ | ၂၆၀၀ | | |
| ၆။ | Double Desk & Bench | ။ | ၁၀၀၀ | ၄၀၂၀ | | |
| ၇။ | Practical Table | ။ | ၂၀၀၀ | ၂၄၀၀ | | |
| ၈။ | Garden Table | ။ | | | ၃၀၀၀ | ၇၀ |
| ၉။ | Garden Chair | ။ | | | ၆၀၀၀ | ၂၅ |
| ၁၀။ | Dining Table | ။ | | | ၃၀၀၀ | ၇၀ |
| ၁၁။ | Dining Chair | ။ | | | ၆၀၀၀ | ၂၅ |
| ၁၂။ | Kitchen Furniture | ။ | | | ၃၀၀၀ | ၃၂၀ |
| ၁၃။ | Cabinet | ။ | | | ၄၀၀၀ | ၁၃၀ |

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင်ရရှိမည့် ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၁၀၀.၀၅ | ၁၃.၀၆ | ၁၁၃.၁၁ |
| (ခ) | အသုံးစရိတ် | ၉၅.၈၆ | ၁၀.၈၅ | ၁၀၆.၇၁ |
| (ဂ) | အသားတင်အမြတ် | ၄.၁၉ | ၂.၂၁ | ၆.၄၀ |

၆။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(က) ဝင်ငွေခွန် — ကျပ် ၁,၈၀ သန်း; အမေရိကန်ဒေါ်လာ ၀,၀၇ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် — ကျပ် ၂၅.၀၁ သန်း

၇။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၅၄)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် သစ်တောရေးရာ ဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ သစ်တောရေးရာ ဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် "မူဘောင်" အတွင်းမှ ဆောင်ရွက် သွားမည် ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားထားပါသည်။

၉။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ ပြည်ပသို့ တင်ပို့ရန် ဈေးကွက်ရှိပြီး ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းများကို လိုက်နာမည် ဖြစ်ကြောင်း၊ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်စေရန် နှင့် မီးဘေး အန္တရာယ် မဖြစ်ပွားစေရန် ကြိုတင်ကာကွယ်မှုများ ဆောင်ရွက် ထားမည်ဖြစ်ကြောင်း၊ ရွှေ့ဆိုင်း ငွေပေးချေခြင်းစနစ် အရ ဝယ်ယူသော စက်ပစ္စည်းတန်ဖိုးများကို ပြန်လည် ပေးဆပ်ရာတွင် အဆိုပြုလုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေ ဖြင့်သာ ပေးဆပ်မည် ဖြစ်ကြောင်း နှင့် ယင်းလုပ်ငန်းသည် လုပ်ငန်း အသစ်ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ပါသည်။

၁၁။ ဆုံးဖြတ်ရန်အချက်။

(က) ဘူးဂါး ကုမ္ပဏီ လီမိတက် မှ သစ်အခြေခံ ဝါးနှီးမြင့် ကုန်ချောပစ္စည်းများ နှင့် ပရိဘောဂ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၁၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။
အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဒုတိယဗိုလ်ချုပ် မောင်မောင် )
ဝန်ကြီး
နိုင်ငံတော်အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီဥက္ကဋ္ဌရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

(၇.၅.၉၉) ၈/၉၉ MIC

၈/၉၉ MIC



ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/၉၀၂/၉၉(၁၄၉၉)၊
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ မေလ ၄ ရက်။

အမှာစာ

အကြောင်းအရာ။ ။ဘူးဂါးကုမ္ပဏီလီမိတက်မှ သစ်အခြေခံတန်ဖိုးမြှင့် ကုန်ချောပစ္စည်းများနှင့် ပရိဘောဂထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဘူးဂါးကုမ္ပဏီလီမိတက် ( Bu Ga Co., Ltd ) မှ သစ်အခြေခံတန်ဖိုးမြှင့် ကုန်ချောပစ္စည်းများနှင့်ပရိဘောဂ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၃၀-၄-၉၉) နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၇/၉၉) ကြိမ်မြောက် ကြိုတင်ညှိနှိုင်းအစည်းအဝေးသို့ တင်ပြခဲ့ရာယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် မူအားဖြင့် သဘောတူပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရတင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ငွေရှင်းငွေပေးချေခြင်းစနစ်သဘောတူစာချုပ် ( မူကြမ်း )၊ မြေငှားစာချုပ် ( မူကြမ်း ) နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများကို နောက်ဆက်တွဲ (၁) တွင် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ( ၀.၆၉ ) သန်းအပါအဝင် ကျပ် ( ၅၈.၁၀ ) သန်းဖြစ်ပါသည်။ ယင်းတွင် ငွေသားကျပ် ( ၃.၀၀ ) သန်း [ကိုယ်ပိုင်နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ ( ၀.၂၀ ) သန်းအပါအဝင်]၊ စက်ပစ္စည်းတန်ဖိုးကျပ် ( ၇.၈၁ ) သန်း [အမေရိကန်ဒေါ်လာ ( ၀.၄၉ ) သန်းအပါအဝင်]၊ အဆောက်အဦတန်ဖိုး ကျပ် ( ၄၆.၇၉ ) သန်း၊ လုပ်ငန်းသုံးနှင့်ပရိဘောဂပစ္စည်းများကျပ် ( ၀.၅၀ )

သန်းကို ထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။ စက်ပစ္စည်းများကို တရုပ်ပြည်သူ့သမ္မတနိုင်ငံ Kunming Yunnan ရှိ Yunnan Yunsen Industrial General Co., မှ ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ်ဖြင့် ရယူမည်ဖြစ်ပြီး အတိုးနှုန်း (၅) ရာခိုင်နှုန်းဖြင့် (၄) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် လ/န (၃၉) အရ ကေအိုင်အို (ဗဟို) စီးပွားရေးအဖွဲ့သို့ ပရိဘောဂစက်ရုံတည်ဆောက်ရန် ချထားပေးသော ကချင်ပြည်နယ် ဗန်းမော်ခရိုင်၊ မိုးမောက်မြို့နယ်၊ ကျခန်းဒတ်ကျေးရွာရှိ မြေ (၃.၄၄) ဧက (၁၃၉၂၁.၂၀ စတုရန်းမီတာ) ကို ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်း၏ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| အမှတ်စဉ် | အကြောင်းအရာ | ရေတွက်ပုံ | ပြည်တွင်းရောင်း | | ပြည်ပရောင်း | |
|---|---|---|---|---|---|---|
| | | | အရေအတွက် | ရောင်းဈေးနှုန်း(ကျပ်) | အရေအတွက် | ရောင်းဈေးနှုန်း (U[illegible]) |
| ၁ | Flooring | တန် | ၂၀၀ | ၆၁၅၀၀ | ၂၀၀ | ၁၈၀၀ |
| ၂ | PTG | တန် | ၁၀၀ | ၆၁၅၀၀ | ၁၅၀ | ၂၂၀၀ |
| ၃ | Student Chair | ယူနစ် | ၁၀၀၀၀ | ၂၁၆၀ | | |
| ၄ | Combine Desk | ယူနစ် | ၈၀၀၀ | ၃၉၆၀ | | |
| ၅ | Black Board(W/Stand) | " | ၇၅၀၀ | ၂၆၀၀ | | |
| ၆ | Double Desk & Bench | " | ၁၀၀၀ | ၄၀၂၀ | | |
| ၇ | Practical Table | " | ၂၀၀၀ | ၂၄၀၀ | | |
| ၈ | Garden Table | " | | | ၃၀၀၀ | ၇၀ |
| ၉ | Garden Chair | " | | | ၆၀၀၀ | ၂၈ |
| ၁၀ | Dining Table | " | | | ၃၀၀၀ | ၇၀ |
| ၁၁ | Dining Chair | " | | | ၆၀၀၀ | ၂၅ |
| ၁၂ | Kitchen Furniture | " | | | ၃၀၀၀ | ၃၂၀ |
| ၁၃ | Cabinet | " | | | ၄၀၀၀ | ၁၃၀ |

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့်အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၁၀၀.၀၅ | ၁၃.၀၆ | ၁၁၃.၁၁ |
| (ခ) အသုံးစရိတ် | ၉၅.၈၆ | ၁၀.၈၅ | ၁၀၆.၇၁ |
| (ဂ) အသားတင်အမြတ် | ၄.၁၉ | ၂.၂၁ | ၆.၄၀ |

၆။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) ဝင်ငွေခွန် ကျပ် ၁.၈၀ သန်း
အမေရိကန်ဒေါ်လာ ၀.၀၇ သန်း
(ခ) ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၂၅.၀၁ သန်း

၇။ ယင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၅၄) ဦးကို ခန့်ထားဆောင်ရွက်မည်ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် သစ်တောရေးရာ ဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာ သစ်တောရေးရာ ဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် ''မူဘောင်'' အတွင်း ဆောင်ရွက်သွားမည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်းပြန်ကြားထားပါသည်။

၉။ ယင်းလုပ်ငန်း၏ ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားအဖြစ် ကမကထပြုသူ ဦးလဂျာ ၏ ဂိုးမဘတ်လီမိတက် ငွေစာရင်းနှင့် ဘူးဂါး ကုမ္ပဏီလီမိတက်၏ ငွေရေးကြေးရေးနှင့်ပတ်သက်၍ မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ်၏ ထောက်ခံချက်အား တင်ပြထားပါသည်။

၁၀။ ယင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် မော်တော်ယာဉ်တင်သွင်းခွင့်နှင့်ပတ်သက်၍ တည်ဆောက်ရေးကာလအတွင်း Wagon တစ်စီးနှင့် Truck တစ်စီးကို အခွန်အကောက်ကင်းလွတ်ခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်ချိန်တွင် Pick-up တစ်စီးနှင့် Truck တစ်စီးကို အခွန်အကောက် (၅၀) ရာခိုင်နှုန်းသက်သာခွင့်ဖြင့်လည်းကောင်းတင်သွင်းခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၇/၉၉) ကြိမ်မြောက် ကြိုတင်ညှိနှိုင်းအစည်းအဝေးမှ ဆုံးဖြတ်ခဲ့ပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း၊ ထွက်ရှိသော ကုန်ချောများတင်ပို့ရန် နိုင်ငံခြားဈေးကွက်ရှိပြီးဖြစ်ကြောင်း လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွား စေရန်နှင့် မီးဘေးအန္တရာယ်မဖြစ်ပွားစေရန် ကြိုတင်ကာကွယ်မှုများဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊ ပြည်ပမှ တင်သွင်းမည့်စက်ပစ္စည်း များအတွက်ထွက်ရှိသော ကုန်ချောများဖြင့် ပြန်လည်ပေးဆပ်မည်ဖြစ်ကြောင်းနှင့် ယင်းလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၁၂ နှင့် ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင် တစ်ဆက်တည်း(၃)နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို တောင်းခံထားရာ ယင်းအပေါ် သုံးသပ်တင်ပြချက်ကို <u>ပူးတွဲ</u> တင်ပြထားပါသည်။

၁၃။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) ဘူးဂါးကုမ္ပဏီလီမိတက်မှ သစ်အခြေခံတန်ဖိုးမြှင့်ကုန်ချောပစ္စည်းများနှင့် ပရိဘောဂထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) သဘောတူပါက အထက်အပိုဒ် (၁၂) ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

အတွင်းရေးမှူး (ကိုယ်စား)
[မောင်မောင်ရီ၊ တွဲဖက်အတွင်းရေးမှူး]

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။



* ဗိန် ၄-၅-၉၉။

ပူးတွဲ

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကိုဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ခ) အရ လုပ်ငန်းမှ ပြည်ပသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေအပေါ် (၅၀%) ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏အမှန်တကယ် အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကိုဖော်ပြလျက် ပထမ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့် ပြည်တွင်း၊ ပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ကို လုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဃ) အရ သွင်းကုန်အစားထိုး လုပ်ငန်းအဖြစ်အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ် သင့်လျော်သော ကာလအထိ ဝင်ငွေခွန်သက်သာခွင့် တောင်းခံခြင်း တို့အကျုံးဝင်ခြင်း မရှိဟုသုံးသပ်ရပါသည်။



*·ငွေး

- ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်း အတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည် အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့် နှုန်းအတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ အတွင်း တင်သွင်းလာသည့် စက်ပစ္စည်းများ အပေါ် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ ကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ည) အရ ထုတ်လုပ်မည့် ပစ္စည်းများ ပြည်ပသို့ တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်ကို ခွင့်ပြုသင့်ပါသည်။

(၃၀.၄.၉၉) [illegible]



## လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏ အဓိက အချက်များ

(မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေအရ)

| | | | | |
|---|---|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ဘူးဂါးကုမ္ပဏီလီမိတက်<br>(Bu Ga Co., Ltd )<br>(၁၆-၂-၉၅ နေ့တွင် မှတ်ပုံတင်ပြီး) | | |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဒေါက်တာလရှာ | | |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - သစ်အခြေခံတန်ဖိုးမြှင့်ကုန်ချောပစ္စည်းများနှင့် ပရိဘောဂထုတ်လုပ်ခြင်း။ | | |
| ၄။ | တည်နေရာ | - ကွင်းအမှတ်၊ အိုအက်စ်အက်စ်၊ကျွန်းဒတ်ကျေးရွာ၊ မိုးမောက်မြို့နယ်၊ ဗန်းမော်ခရိုင်၊ကချင်ပြည်နယ်။ | | |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ်၅၈.၁၀သန်း(US$ ၀.၆၉သန်းအပါအဝင်) | | |
| | - ငွေသား | ကျပ် ၃.၀၀သန်း(US$ ၀.၂၀သန်းအပါအဝင်) | | |
| | - စက်ပစ္စည်း | ကျပ် ၇.၈၁သန်း(US$ ၀.၄၉သန်းအပါအဝင်) | | |
| | - အဆောက်အဦ | - ကျပ်၄၆.၇၉သန်း | | |
| | - လုပ်ငန်းသုံးနှင့်ပရိဘောဂပစ္စည်း | - ကျပ် ၀.၅၀သန်း | | |
| ၆။ | မြေအကြောင်းအရာ | | | |
| | - မြေအကျယ်အဝန်း | - ၃.၄၄ဧက(၁၃၉၂၁.၂၀စတုရန်းမီတာ) | | |
| | - မြေပိုင်ဆိုင်မှု | - ကေအိုင်အိုဗဟိုစီးပွားရေးအဖွဲ့သို့ ပရိဘောဂစက်ရုံ တည်ဆောက်ရန် လန(၃၉)အရ ချထားပေးသော မြေ | | |
| | - မြေအမျိုးအစား | - လ/န(၃၉) | | |
| ၇။ | ထုတ်လုပ်မှု(ပုံမှန်နှစ်) | ရေတွက်ပုံ | ပြည်တွင်းရောင်း | ပြည်ပရောင်း |
| | - Flooring | တန် | ၂၀၀ | ၂၀၀ |
| | - PTG | တန် | ၁၀၀ | ၁၅၀ |
| | - Student Chair | ယူနစ် | ၁၀၀၀၀ | - |
| | - Combine Desk | ယူနစ် | ၈၀၀၀ | - |
| | - Black Board(W/Stand) | ယူနစ် | ၇၅၀၀ | - |
| | - Double Desk & Bench | ယူနစ် | ၁၀၀၀ | - |
| | - Practical Table | ယူနစ် | ၂၀၀၀ | - |
| | - Garden Table | ယူနစ် | - | ၃၀၀၀ |
| | - Garden Chair | ယူနစ် | - | ၆၀၀၀ |
| | - Dining Table | ယူနစ် | - | ၃၀၀၀ |
| | - Dining Chair | ယူနစ် | - | ၆၀၀၀ |

| | | | | |
|---|---|---|---|---|
| | -Kitchen Furniture | ယူနစ် | - | ၃၀၀၀ |
| | -Cabinet | ယူနစ် - | - | -၄၀၀၀ |
| ၈။ | ရောင်းဈေးနှုန်း (ပုံမှန်နှစ်) | ပြည်တွင်းရောင်း | | ပြည်ပရောင်း |
| | | (ကျပ်/တန်) | | (US $/တန်) |
| | -Flooring | ၆၁၅၀၀ | | ၁၉၅၀ |
| | -PTG | ၆၁၅၀၀ | | ၂၂၀၀ |
| | | (ကျပ်/ယူနစ်) | | (US $ /ယူနစ်) |
| | - Student Chair | ၂၁၆၀ | | - |
| | - Combine Desk | ၃၉၆၀ | | - |
| | - Black Board(W/Stand) | ၂၆၀၀ | | - |
| | - Double Desk & Bench | ၄၀၂၀ | | - |
| | - Practical Table | ၂၄၀၀ | | - |
| | - Garden Table | - | | ၇၀ |
| | - Garden Chair | - | | ၂၅ |
| | - Dining Table | - | | ၇၀ |
| | - Dining Chair | - | | ၂၅ |
| | - Kitchen Furniture | - | | ၃၂၀ |
| | - Cabinet | - | | ၁၃၀ |
| ၉။ | ရောင်းချမည့်စနစ် | Flooring နှင့် PTG | ကျောင်းသုံး ပရိဘောဂ | အိမ်သုံး ပရိဘောဂ |
| | - ပြည်တွင်းရောင်း | ၅၀ % | ၁၀၀ % | - |
| | - ပြည်ပရောင်း | ၅၀ % | - | ၁၀၀ % |
| ၁၀။ | ဝင်ငွေ (ပုံမှန်နှစ်) | | | |
| | - ပြည်တွင်းရောင်း | - ကျပ် ၁၀၀.၀၅ သန်း | | |
| | - ပြည်ပရောင်း | - US$ ၂.၁၈ သန်း | | |
| ၁၁။ | အသားတင်အမြတ် (ပုံမှန်နှစ်) | | | |
| | - ပြည်တွင်းရောင်း | - ကျပ် ၄.၁၉ သန်း | | |
| | - ပြည်ပရောင်း | - US$ ၀.၃၇ သန်း | | |
| ၁၂။ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ် | | | |
| | - ဝင်ငွေခွန် | - ကျပ် ၁.၈၀ သန်း | | |
| | | - US$ ၀.၅၇ သန်း | | |
| | - ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၂၅.၀၁ သန်း | | |

| | | |
|---|---|---|
| ၁၃။ | ဝန်ထမ်းအင်အား (ပြည်တွင်း) | - ၁၄ ဦး |
| ၁၄။ | အခြား | - စက်ပစ္စည်းကိရိယာများကို တရုပ်ပြည်သူ့သမ္မတနိုင်ငံ Kunming Yunnan - ရှိ Yunnan Yunsen Industrial General Company မှ ရွှေ့ဆိုင်းငွေ ပေးချေခြင်းစနစ်ဖြင့် ရယူမည်ဖြစ်ပြီး၊ အတိုးနှုန်း (၅) ရာခိုင်နှုန်းဖြင့် (၄) နှစ်အတွင်း ပြန်လည်ပေး ဆပ်ရန် ဖြစ်ပါသည်။<br>- စက်ပစ္စည်းစာရင်းကို <u>ပူးတွဲ</u>တင်ပြထားပါသည်။<br>- လုပ်ငန်းအတွက် လိုအပ်သောကျွန်းသစ်လုံးများအား မြန်မာ့သစ်လုပ်ငန်းမှလည်းကောင်း၊ ကိုင်းဖျား ကိုင်းနားနှင့်သစ်မာကို သစ်တောထွက်ပစ္စည်းဖက် စပ်ကော်ပိုရေးရှင်းမှလည်းကောင်းဝယ်ယူမည်ဖြစ် ကြောင်းဖော်ပြထားပါသည်။<br>- ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှမည်သူ မျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ ထွက်ရှိသော ကုန်ချော များတင်ပို့ရန် နိုင်ငံခြားဈေးကွက်ရှိပြီးဖြစ်ကြောင်း လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်း မှုမဖြစ်ပွားစေရန်နှင့်မီးဘေးအန္တရာယ်မဖြစ်ပွား စေရန် ကြိုတင်ကာကွယ်မှုများဆောင်ရွက်ထားမည် ဖြစ်ကြောင်း၊ ပြည်ပမှတင်သွင်းမည့်စက်ပစ္စည်းများ အတွက် ထွက်ရှိသော ကုန်ချောများဖြင့် ပြန်လည် ပေးဆပ်မည်ဖြစ်ကြောင်းနှင့် ဤလုပ်ငန်းသည်လုပ် ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။<br>- ကချင်ပြည်နယ်၊ အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေး ကောင်စီမှ ကန့်ကွက်ရန်မရှိပါကြောင်းပြန်ကြား ထားပါသည်။<br>- သစ်တောရေးရာဝန်ကြီးဌာနမှ သတ်မှတ်ထား သော "မူ" ဘောင်အတွင်းမှ ဆောင်ရွက်သွားမည် ဆိုပါက ကန့်ကွက်ရန် မရှိကြောင်းပြန်ကြားထားပါ သည်။ |



*ဇိန် ၂၃-၄-၉၉။

ANNEXURE (A)

**BU GA CO., LTD.**
WOOD-BASED INDUSTRY FACTORY
PROCUREMENT OF MACHINERY AND EQUIPMENTS

| SR NO | | | DESCRIPTION | QTY | RATE (US $) | AMOUNT (US $) |
|---|---|---|---|---|---|---|
| I | | | **IMPORT ITEMS** | | | |
| | | | PROCUREMENT OF MACHINERY & EQUIPMENT | | | |
| | 1 | | PRODUCTIVE MACHINERY | | | |
| | | | Band Saw Mill | | | 151,000 |
| | | 1 | 5 ft Band Saw With Carriage (Taiwan) | 1 | 143,000 | 143,000 |
| | | 2 | Cross Cut Saw (30 " ) (Pendulum type) | 1 | 2,500 | 2,500 |
| | | 3 | Rip Saw ( 30 " ) | 2 | 1,500 | 3,000 |
| | | 4 | Rip Saw ( 18 " ) | 1 | 1,000 | 1,000 |
| | | 5 | Multiple Rip Saw ( Taiwan ) | | | |
| | | 6 | Radial arm Saw ( Taiwan ) | 1 | 1,500 | 1,500 |
| | | | FURNITURE MAKING MACHINE | | | 153,900 |
| | | 1 | Four Side Moulder With (6) heads (Taiwan) | 2 | 40,000 | 80,000 |
| | | 2 | Circular Cross cut Saw (14") | 2 | 3,000 | 6,000 |
| | | 3 | 12" thicknessor ( Taiwan ) | 1 | 4,000 | 4,000 |
| | | 4 | 24" thicknessor ( Taiwan ) | 1 | 6,500 | 6,500 |
| | | 5 | Hand planer and jointer ( Taiwan ) | 1 | 4,000 | 4,000 |
| | | 6 | Rip Saw (18") ( Taiwan ) | 2 | 1,000 | 2,000 |
| | | 7 | Radial arm Saw ( Taiwan ) | 2 | 1,500 | 3,000 |
| | | 8 | Hollow Chisel mortiser ( Taiwan ) | 2 | 2,000 | 4,000 |
| | | 9 | Tilting Arbor Circular Saw 12 "(Taiwan) | 1 | 2,000 | 2,000 |
| | | 10 | Drilling Machine ( Taiwan ) | 2 | 500 | 1,000 |
| | | 11 | Single spindle shaper ( Taiwan ) | 1 | 2,000 | 2,000 |
| | | 12 | Single spindle moulder ( Taiwan ) | 1 | 2,000 | 2,000 |
| | | 13 | 30" Small Band Saw (Taiwan) | 2 | 3,000 | 6,000 |
| | | 14 | Router (Taiwan) | 1 | 3,000 | 3,000 |
| | | 15 | Single End Tenoner | 2 | 4,500 | 9,000 |
| | | 16 | Wide Belt Sander (24") (Taiwan) | 1 | 15,000 | 15,000 |
| | | 17 | Spindle Sander (Taiwan) | 2 | 1,000 | 2,000 |
| | | 18 | Horizontal Belt Sander (Taiwan) | 2 | 1,200 | 2,400 |
| | 2 | | POWER UNIT | | | 97,600 |
| | | 1 | Dust Extraction Unit 750 $m^3$ / min | 1 | 20,000 | 20,000 |
| | | 2 | Dry Kiln Accessories For (6) Chambers, Unit | 1 | 20,000 | 20,000 |
| | | 3 | Generator, 300K. W | 1 | 40,000 | 40,000 |
| | | 4 | Boiler (1.5) Tons and accesseries | 1 | 15,000 | 15,000 |
| | | 5 | Air Comporessor ( 30 c/m) | 2 | 1,300 | 2,600 |
| | 3 | | HANDLING EQUIPMENT AND TRANSPORT VEHICLES | | | 48,600 |
| | | 1 | Forklift ( Diesel ) x 2 Tons | 1 | 18,000 | 18,000 |
| | | 2 | Hydraulic Hand Lift Truck | 3 | 1,200 | 3,600 |
| | | 3 | Wagon 95 MDL x UP | 1 | 5,000 | 5,000 |
| | | 4 | Pick Up, Double Cab 4 x 4, 95 MDL x Up | 2 | 3,500 | 7,000 |
| | | 5 | Truck, 2 Tons x Up 87 MDL x Up | 5 | 3,000 | 15,000 |

| SR NO | | DESCRIPTION | QTY | RATE (US $) | AMOUNT (US $) |
|---|---|---|---|---|---|
| 4 | | <u>SAW SHOP EQUIPMENT</u> | | | <u>34,250</u> |
| | 1 | Circular Saw Grinder ( Taiwan ) | 1 | 4,000 | 4,000 |
| | 2 | Band Saw Sharpener ( Taiwan ) | 1 | 6,500 | 6,500 |
| | 3 | Stretcher Roll ( Taiwan ) | 1 | 2,500 | 2,500 |
| | 4 | Swager | 2 | 1,000 | 2,000 |
| | 5 | Knife Grinder ( Taiwan ) | 1 | 8,000 | 8,000 |
| | 6 | Carbide Tip Saw Grinder ( Taiwan ) | 1 | 6,500 | 6,500 |
| | 7 | Gas Welding Set | 1 | 750 | 750 |
| | 8 | Universal Tool Grinder | 1 | 4,000 | 4,000 |
| 5 | | GRAND TOTAL IMPORTED ITEMS | | | US$ 485,350 |
| 6 | | GRAND TOTAL Equivale Kyats | | | Kyats 2,912,100 |

**ကချင်ပြည်နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ**
**မြစ် ကြီး နား မြို့**

စာအမှတ် ၊ ၁၉၄ / ၁ - ၂ / ပယက (ကချင်)
ရက်စွဲ ။ ၁၉၉၉ခုနှစ် မတ် လ ၅ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန် ကုန် မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁-၂-၉၉ရက်စွဲပါစာအမှတ်၊ ရက-၁/မ-၃၅၆/၉၈(၁၁၄၄၃)

ကချင်ပြည်နယ်၊ ဗန်းမော်ခရိုင်၊ မိုးမောက်မြို့နယ်၊ ကျခန်းဒတ်ကျေးရွာ၊ ကွင်းအမှတ်( အိုအက်စ်အက်စ်) ရှိ လ/န(၃၉)ကင်းလွတ်ခွင့် ရရှိထားသော မြေဧရိယာ(၃.၄၄)ဧက (၁၅၀၀၀၀ စတုရန်းပေ)ပေါ်တွင် ဘူးဂါးကုမ္ပဏီလီမိတက်မှ စက်ရုံတည်ဆောက်ပြီး သစ်အခြေခံတန်ဖိုးမြင့် ကုန်ချောများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်လျှောက်ထားမှုအပေါ် ကချင်ပြည်နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှ ကန့်ကွက်ရန်မရှိပါကြောင်း ညှိနှိုင်းပြန်ကြားပါသည်။

ဥ (ကြ) ၄ ( )
( ကြည်း ၁၂၅၀၈ ဒုတိယဗိုလ်မှူးကြီးမြင့်သိန်း ၊ အတွင်းရေးမှူး )

မိတ္တူကို
မြောက်ပိုင်းတိုင်းစစ်ဌာနချုပ်
ဒေသကွပ်ကဲမှုစစ်ဌာနချုပ်(ဗန်းမော်)
ခရိုင်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၊ ဗန်းမော်မြို့
အမှတ်(၂၁) ထောက်လှမ်းရေးတပ်
ဘူးဂါးကုမ္ပဏီလီမိတက်၊ မြစ်ကြီးနားမြို့
မျှောစာတွဲ
လက်ခံ

ရက်စွဲ
ဝင်စာမှတ်ပုံတင်
ညွှန်ကြားချက်
ညွှန်မှူး

ပုံစံ - ၃၃
နည်းဥပဒေ - ၈၃

<u>လယ်ယာမြေကို သတ်မှတ်သည့်နည်းလမ်းအတိုင်း အသုံးချရန် ဆင့်ဆိုသော အမိန့်</u>

ကချင်ပြည်နယ် ကျေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေး ကောင်စီသည်၊ ၁၉၅၃ ခုနှစ်၊ လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေးအက်ဥပဒေပုဒ်မ (၃၉) ဖြင့်အပ်နှင်းထားသည့်အာဏာများကိုသုံး၍ အောက်ပါဇယားတွင် ဖော်ပြထားသော လယ်ယာမြေကို ဇယားကွက် (၈) ၌ ဖော်ပြသည့်နည်းလမ်းအတိုင်း အသုံးချရမည်။ <u>ကချင်ပြည်နယ် ဗန်းမော်ခရိုင်အထွေထွေ အုပ်ချုပ်ရေးဦးစီးဌာန</u> အား အမိန့်ဆင့်ဆိုလိုက်သည် -

| ပြည်နယ် | မြို့နယ် | ကျေးရွာ / ကွင်းအမည် | ကွင်း အမှတ် | အကွက် အမည် | ဦးပိုင် အမှတ် | ဦးပိုင် ဧက | အသုံးချရမည့် နည်းလမ်း | အကြောင်းအရာ |
|---|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ကချင် | မိုးမောက် | ဗျူဟာနန်းဆည် ကျေးရွာ | အိုက်ကတ်ဇ် / ကတ်ဇ် | - | - | ၂၀.၁၂ | ပရိဘောဂ စက်ရုံ တည်ဆောက်ရန် မြေ | ကော်ကိုင်ကို ဗဟိုစီးပွား ရေးအဖွဲ့ မိုးမောက် |

မှတ်ချက် - (၁) ဤဇယားတွင် ဖော်ပြထားသော လယ်ယာမြေကို မြေစာရင်းဌာနစာရင်းတွင် <u>ကော်ကိုင်ကိုဗဟိုစီးပွားရေးအဖွဲ့၏ ပရိဘောဂစက်ရုံတည်ဆောက်ရန် မြေအဖြစ် ပြောင်းလဲရန်။</u> ၁၉၅၄ ခုနှစ်လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေး နည်းဥပဒေ - ၈၄ အရ ခွင့်ပြုသည်။

(၂) ဇယားကွက် (၈) ၌ ဖော်ပြသည့်နည်းလမ်းအတိုင်း လယ်ယာမြေကိုအသုံးမချလျှင်၊ ဤအမိန့်ကိုအက်ဥပဒေပုဒ်မ - ၃၅ အရ၊ ပယ်ဖျက်မည့်အပြင်၊ ဤအမိန့်ကိုလိုက်နာရန် ပျက်ကွက်သူသည်အက်ဥပဒေပုဒ်မ - ၄၀ အရပြစ်ဒဏ် ချခြင်းခံရမည်။

(၃) အထက်ဖော်ပြပါဦးပိုင်အမှတ်နှင့် မြေဧရိယာများကို ၁၉၉၀ - ၉၉ ခုနှစ် နေ့ကြီးကတ်တွဲ မြေပုံနှင့်စာရင်းဇယားများမှ ကောက်နှုတ်သုံးစွဲသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
( ခင်ကောင်၊ ဗ/၃၆၆၅ )

စာအမှတ်၊ ၁၀၂ / ၁ - ၂ / ပယက (ကချင်)
ရက်စွဲ ၊ ၁၉၉၀ ခုနှစ်၊ အောက်တိုဘာလ ၁၂ ရက်

<u>မိတ္တူ ဝေခြင်း</u> -
မြေဘက်ပိုင်း တိုင်း စစ်ဌာနချုပ်၊ မြစ်ကြီးနားမြို့
ကချင်ပြည်နယ် ကျေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေး ကောင်စီ၊ မြစ်ကြီးနားမြို့
ဒေသကွပ်ကဲမှု ၂၀ စစ်ဌာနချုပ်၊ ဗန်းမော်မြို့
ပြည်နယ်အထွေထွေအုပ်ချုပ်ရေး ဦးစီးဌာန၊ မြစ်ကြီးနားမြို့
ပြည်နယ် မြေစာရင်း ဦးစီးဌာန၊ မြစ်ကြီးနားမြို့
ခရိုင် / မြို့နယ် ကျေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေး ကောင်စီ ဗန်းမော် / မိုးမောက်မြို့
ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ဗန်းမော်သို့အမှုတွဲအမှတ်၊
(၁ / ၉၀) ကိုပူးတွဲပေးပို့အပ်ပါသည်။
တာဝန်ခံ - ကော်ကိုင်ကိုဗဟိုစီးပွားရေးအဖွဲ့၊ စီတာပူ၊ မြစ်ကြီးနား / ဗန်းမော် - မိုးမောက်မြို့
မြို့နယ်အထွေထွေအုပ်ချုပ်ရေး ဦးစီးဌာန၊ မိုးမောက်
မြို့နယ် မြေစာရင်း ဦးစီးဌာန၊ မိုးမောက်မြို့
အမတဲလတ်နံ / ...

ကေအိုင်အို(ဗဟို)စီးပွားရေးအဖွဲ့

နှင့်

ဘုးဂါးကုမ္ပဏီလီမိတက်

တို့အကြားချုပ်ဆိုသည့်

" မြေငှားစာချုပ် "

ဤမြေငှားစာချုပ်ကို -------- ခုနှစ်၊ --------လ၊( )ရက်နေ့၌ ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့ ရုံးတည်ရှိပြီး ဤစာချုပ်အလို့ငှာ ကေအိုင်အိုဗဟိုစီးပွားရေးအဖွဲ့၏ကိုယ်စား ဦးဇော်ရော် ကေအိုင်အိုဆက်ဆံရေးအရာရှိ (နောင်တွင် "အငှားချထားသူ"ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏ ဆက်ခံသူများ၊ ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များပါဝင်သည်)က တစ်ဖက် နှင့်

ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့၊ ယုဇနရပ်ကွက် အမှတ်(၄၄၆)တွင် ရုံးတည်ရှိပြီး ဤစာချုပ်အလို့ငှာ မန်နေဂျင်းဒါရိုက်တာဒေါက်တာလဂျာက ကိုယ်စားပြုသော "ဘုးဂါးကုမ္ပဏီလီမိတက်"(နောင်တွင် "အငှားချထားခြင်းခံရသူ"ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏ဆက်ခံသူများ၊ ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများနှင့်တရားဝင် ကိုယ်စားလှယ်များပါဝင်သည်)က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက် များနှင့်အညီ ဤစာချုပ်ကိုချုပ်ဆိုကြပါသည်။

၁။ **ရည်ရွယ်ချက်**

ဤစာချုပ်ကို ချုပ်ဆိုသည့်ရည်ရွယ်ချက်မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) "အငှားချထားခြင်းခံရသူ"သည် ကချင်ပြည်နယ်၊ဗန်းမော်ခရိုင်၊ မိုးမောက်မြို့နယ်၊ ကျခန်းဒတ် ကျေးရွာရှိ အငှားချထားသူပိုင်ဆိုင်သော "သစ်အခြေခံစက်မှုလုပ်ငန်းနယ်မြေ" တွင် မြေ ဧရိယာအကျယ်အဝန်း(၂၀.၁၂)ဧကအနက် (၃.၄၄)ဧကကိုငှားရမ်း၍ သစ်အခြေခံကုန်ချော စက်ရုံကိုတည်ဆောက်ပြီး၊ ကျွန်း၊ သစ်မာ အမျိုးအစားကိုအသုံးပြု၍ သစ်အခြေခံတန်ဘိုး မြှင့် ကုန်ချောပစ္စည်းများနှင့် ပရိဘောဂများကို ထုတ်လုပ်သွားရန် ရည်ရွယ်ပါသည်။ ငှားရမ်းမည့် မြေနေရာ၏မြေပုံကို နောက်ဆက်တွဲ(က)အဖြစ် ပူးတွဲထားရှိပါသည်။

(ခ) အငှားချထားသူက ဤစာချုပ်၏နောက်ဆက်တွဲ(က)အဖြစ် ပူးတွဲထားသော အတည်ပြုပြီး မြေပုံပါမြေဧရိယာ(၂၀.၁၂)ဧကအနက် (၃.၄၄)ဧက မြေနှင့်စပ်လျဉ်း၍ တရားဝင်ပိုင်ဆိုင် ကြောင်း အာမခံပါသည်။

၂။ **အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့သည် သက်ဆိုင်ရာဥပဒေများအရ ဖွဲ့စည်းထား သည့် အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူများဖြစ်ပြီး ဤမြေငှားစာချုပ်ပါ လုပ်ငန်းကို လုပ်ကိုင်ခွင့်ရရှိသော ပုဂ္ဂိုလ်များဖြစ်ကြောင်းနှင့် ဤစာချုပ်ကိုအခွင့်အာဏာရှိသူများ၊ငွေကြေး အင်အားတောင့်တင်းသူများဖြစ်ကြောင်း အသီးသီးတင်ပြတာဝန်ယူကြပါသည်။

၃။ **လုပ်ငန်းဆောင်နှင့်လုပ်ဆောင်မှုဖြစ်စဉ်**

စီမံကိန်းလုပ်ငန်းစဉ်အကျဉ်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) အငှားချထားခြင်းခံရသူသည် ကချင်ပြည်နယ်၊ ဗန်းမော်ခရိုင်၊ မိုးမောက်မြို့နယ်၊ ကျခန်းဒတ်ကျေးရွာရှိကွင်းအမှတ်အိုင်အက်စ်အက်စ်တွင် သစ်အခြေခံကုန်ချောစက်ရုံကို တည်ဆောက်ပြီး ကျွန်း၊ သစ်မာသစ်မျိုးများကိုအသုံးပြု၍သစ်အခြေခံတန်ဘိုးမြှင့် ကုန်ချောပစ္စည်းများနှင့်ပရိဘောဂများကို ထုတ်လုပ်သွားမည်ဖြစ်ပါသည်။

(ခ) ထုတ်လုပ်မည့်ပစ္စည်းများမှာ –

ကျွန်း၊ သစ်မာများကို အသုံးပြု၍

(၁) ကျောင်းသုံးပရိဘောများ

(၂) ကြမ်းခင်းတုံးများ

(၃) ဥယျာဉ်သုံးပရိဘောဂများ

(၄) အိမ်သုံးပရိဘောဂများ၊ မီးဖိုချောင်သုံးပရိဘောဂများနှင့် ပရိဘောဂအစိတ်အပိုင်းများ

(ဂ) **အငှားချထားခြင်းခံရသူမှ အဆိုပါမြေကွက်ပေါ်တွင် စီမံကိန်းမတည်ရင်းနှီးငွေကျပ်သန်း(၂၀၀)ကို ရင်းနှီးမြှုပ်နှံ၍ စက်ရုံကိုတည်ဆောက် လုပ်ဆောင်သွားမည် ဖြစ်ပါသည်။**

(ဃ) **ကနဦးစီမံကိန်းကာလအဖြစ် (၃၀)နှစ်သတ်မှတ်၍ နောက်ထပ်(၅)နှစ်(၂)ကြိမ် သက်တမ်းတိုးမြှင့်ပြီး စုစုပေါင်းစီမံကိန်းကာလကို (၄၀)နှစ်သတ်မှတ်ပါသည်။**

(င) **နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံကော်မရှင်၏ အတည်ပြုချက်ဖြင့်** ဆက်လက်ဆောင်ရွက်သွားရန်ဖြစ်သည်။

၄။ **မြေငှားခြင်းအတွက် ငွေပေးသွင်းမှုနှင့် စည်းကမ်းသတ်မှတ်ချက်များ**

(က) အငှားချထားခြင်းခံရသူသည် မြန်မာနိုင်ငံသားပိုင် ရင်းနှီးမြှုပ်နှံမှုကုမ္ပဏီဖြစ်၍ မြေငှားရမ်းခ(Annual Ground Rent)အဖြစ် မြေနေရာ (၃.၄၄)ဧကကို တနှစ်အတွက် တစ်ဧကလျှင် ၅၀၀၀/–သတ်မှတ်၍ ကျပ်(၂၀၆၀၀) (ကျပ် နှစ်သောင်းခြောက်ရာတိတိ)ကို ကေအိုင်အိုဇက်ဟို စီးပွားရေးအဖွဲ့သို့ နှစ်စဉ်ပေးသွင်းရမည်။

(ခ) **အထက်အပိုဒ်ခွဲ(က)ပါ မြေငှားရမ်းခများကို အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ သက်ဆိုင်ရာဘဏ္ဍာနှစ်၏ နောက်ဆုံးသုံးလဖြစ်သည့် ဇန်နဝါရီလမှ မတ်လအတွင်း နှစ်စဉ်ကြိုတင်ပေးသွင်းရမည်။**

(ဂ) **အပိုဒ်(က)ပါ မြေငှားရမ်းခကို (၅)နှစ်လျှင်တစ်ကြိမ်စီစစ်၍ ညှိနှိုင်းသတ်မှတ်သွားမည် အကယ်၍ အဆိုပါငှားရမ်းခကို တိုးမြှင့်ပါက တိုးမြှင့်လာမည့် နှစ်စဉ်ငှားရမ်းခနှုန်းသည် နောက်ဆုံးပေးဆောင်လျှက်ရှိသော ငှားရမ်းခနှုန်းထက်(၁၅%)ထက်မပိုစေရ။**

၅။ **အငှားချထားသူ၏တာဝန်ဝတ္တရားများ**

"အငှားချထားသူ"သည်

(က)အငှားချထားခြင်းခံရသူက လိုအပ်သောခွင့်ပြုချက်များ မှတ်ပုံတင်များ၊ လိုင်စင်များ၊ အခြား လိုအပ်သည့်အချက်အလက်များကို သက်ဆိုင်ရာပြည်ထောင်စုမြန်မာနိုင်ငံတော်၏ အဖွဲ့အစည်းများထံမှ ရယူရာတွင်ကူညီဆောင်ရွက်ပေးရန်။

(ခ) အငှားချထားခြင်းခံရသူက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံမှ စီမံကိန်းဆိုင်ရာလုပ်ငန်းများအတွက်အခွန်အခကင်းလွတ်ခွင့်နှင့် သက်သာခွင့်လျှောက်ထားရာတွင်ကူညီဆောင်ရွက်ပေးရန်။

(ဂ) မြေခွန်ကို ပေးဆောင်ရန်။

၆။ **အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ**

အငှားချထားခြင်းခံရသူသည်–

(က) ငှားရမ်းထားသည့်မြေပေါ်တွင် အငှားချထားသူက အတည်ပြုပြီးသော ပုံစံ၊ ဒီဇိုင်းများနှင့်အညီ အဆောက်အဦးများအပါအဝင်၊ အခြားမြို့ပြအင်ဂျင်နီယာလုပ်ငန်းအားလုံးကို တည်ဆောက်ရန် အကယ်၍ အဓိကပြုပြင်ပြောင်းလဲမှုများ ပြုလုပ်ရန်လိုအပ်ပါက အငှားချထားသူထံမှစာဖြင့် ကြိုတင်သဘောတူညီချက်ရရှိပြီးမှသာ ဆောင်ရွက်ရမည်။

(ခ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက်ရလျှင်ရခြင်း လုပ်ငန်းအတွက် လိုအပ်သော ပြင်ဆင်မှုများကို စတင်ဆောင်ရွက်ရမည်။

(ဂ) ဤစာချုပ်ပါ ရင်းနှီးမြှုပ်နှံမှုနှင့် စီးပွားရေးလုပ်ဆောင်မှု အားလုံးကို ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများနှင့်အညီ အကောင်အထည်ဖော်ရမည်။

(ဃ) အငှားချထားသူ(သို့မဟုတ်) ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရသို့ ဤစာချုပ်အရ အကျုံးဝင်သော လုပ်ဆောင်မှုများနှင့်ပတ်သက်၍ သတင်းအချက်အလက်များကို မြန်မာနိုင်ငံအက်ဥပဒေအရ အကြောင်းအားလျော်စွာ တောင်းခံလာတိုင်း တင်ပြရမည်။

(င) မြေငှားရမ်းခများကိုသတ်မှတ်နှုံးထားနှင့် သတ်မှတ်သောနည်းလမ်းများအတိုင်း အတိအကျ ပေးချေရမည်။

(စ) တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ အစိုးရ၏ အထူးခွင့်ပြုချက်မရရှိသေးလျှင် မြေငှားစာချုပ်တွင် တည်ဆဲတံဆိပ်ခေါင်းဥပဒေအရ တစ်နှစ်လုံးပျှမ်းမျှ ငှားရမ်းခ၏၅%နှင့် ညီမျှသော တံဆိပ်ခေါင်းခွန်ကို ထမ်းဆောင်ရမည်။

(ဆ) စာချုပ်စာတမ်းမှတ်ပုံတင်အက်ဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ မှတ်ပုံတင်၍ ဆောင်ရွက်ရမည်။

(ဇ) အငှားချထားခြင်းခံရသူက နိုင်ငံတော်အဖွဲ့အစည်းများသို့ ပေးချေရမည့်အခွန်အခများအနက် နိုင်ငံခြားငွေဖြင့်ရရှိသော ဝင်ငွေများကို နိုင်ငံခြားငွေဖြင့်လည်းကောင်း၊ မြန်မာကျပ်ငွေဖြင့် ရရှိသောဝင်ငွေများကို မြန်မာကျပ်ငွေဖြင့်လည်းကောင်း ပေးချေရမည်။

၇။ **စာချုပ်စတင်အကျိုးသက်ရောက်သောနေ့**

ဤစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိပြီးနောက် အသိသက်သေများရှေ့တွင် နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးသော နေ့ရက်မှစတင်အကျိုးသက်ရောက်မှု ရှိစေရမည်။ မြေငှားသက်တမ်းကို စာချုပ်စတင်အကျိုးသက်ရောက်သောနေ့မှ စတင်ရေတွက်သတ်မှတ်ပါမည်။ သို့သော် စီမံကိန်းလုပ်ငန်းသက်တမ်း ကာလကနဦး(၃၀)နှစ်ကို မြေငှားစာချုပ်စတင် အကျိုးသက်ရောက်သောနေ့မှ စတင်ရေတွက်သွားမည်။

၈။ **မြေငှားသက်တမ်းကုန်ဆုံးသည့်အခါ ဆောင်ရွက်မည့်အစီအစဉ်**

အငှားချထားခြင်းခံရသူသည် မြေငှားသက်တမ်းကုန်ဆုံးသည့်အခါ အငှားချထားသည့်မြေကို အဖိုးစားနားမပါဘဲ အငှားချထားသူသို့ ပြန်လည်လွှဲပြောင်းပေးရမည်။ အငှားချထားသည့်မြေပေါ်တွင် မိမိစရိတ်ဖြင့်ဆောက်လုပ်ခဲ့သည့် ပရိဘောဂစက်ရုံအဆောက်အဦများနှင့်တကွ ဆက်နွယ်နေသောပစ္စည်းများကို မိမိတို့၏အစုရှင်များ၏ သဘောတူဆုံးဖြတ်ချက်များနှင့်အညီ အောက်ပါနည်းလမ်းတစ်ရပ်ရပ်ကို ဆုံးဖြတ်ဆောင်ရွက်ရမည်။

(က) အငှားချထားသူက ဆက်လက်ငှားရမ်းခွင့်ပြုလိုသည့် အစုရှင်တစ်ဦးဦးအား ဒါရိုက်တာအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်ဖြင့် အဖိုးစားနားသတ်မှတ်၍ လွှဲပြောင်းရောင်းချခြင်း။

သို့မဟုတ်

(ခ) အဖိုးစားနားသတ်မှတ်ခြင်းမပြုဘဲ အငှားချထားသူသို့ လွှဲပြောင်းပေးခြင်းကို ဆောင်ရွက်ခွင့်ရှိစေရမည်။

၉။ စာချုပ်ပြီးဆုံးခြင်း

ဤစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ စာချုပ်ပါလုပ်ငန်းများကို အငှားချထားခြင်းခံရသူက အပြည့်အဝပြီးဆုံးအောင် ဆောင်ရွက်ပြီး၍ အငှားချထားသူ၏ အတည်ပြုချက်ရရှိပြီးသည့်အခါ စာချုပ်ပြီးဆုံးသည်ဟု မှတ်ယူရမည်။

၁၀။ **ကြိုတင်စည်းကမ်းသတ်မှတ်ချက်**

ဤစာချုပ် အကျိုးသက်ရောက်မှုသည် ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း သက်ဆိုင်ရာအစိုးရအာဏာပိုင်များထံမှ လိုအပ်သည့်သဘောတူညီချက်၊ ခွင့်ပြုချက်များ ရရှိပြီးမှုပေါ်တွင် တည်ရှိပါသည်။

၁၁။ **ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

အငှားချထားခြင်းခံရသူသည် ရေဆိုးများ ရေသန့်စင်စေရန် စီမံခြင်း၊ ရေလွှတ်စနစ်များ ထားရှိခြင်းတို့ကို ပြည်ထောင်စုမြန်မာနိုင်ငံတော်ဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၁၂။ **ဓါတ်သတ္တုအရင်းအမြစ်များ**

ဤစာချုပ်ပါ ငှားရမ်းကာလအတွင်း ငှားရမ်းထားသည့် မြေမှဓါတ်သတ္တု အရင်းအမြစ်များ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းအနုပညာနှင့် ယဉ်ကျေးမှုပစ္စည်းများကို မမျှော်လင့်ဘဲတွေ့ရှိလျှင် ထိုပစ္စည်းများကို အငှားချထားခံရသူသည် သက်ဆိုင်ရာမြန်မာနိုင်ငံအစိုးရအဖွဲ့အစည်းများသို့ လွှဲပြောင်း

ပေးအပ်ရမည်။ ထို့ပြင်အထက်ပါ ပစ္စည်းများအား နိုင်ငံတော်အစိုးရက လွတ်လပ်စွာတူးဖော်ရယူပိုင်ခွင့် ရှိသည်။

၁၃။ **စာချုပ်ရပ်စဲခြင်း**

(က)ဤစာချုပ်ကို အောက်ဖော်ပြပါအကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်လာပါက ရပ်စဲသွားစေရမည်။

(၁) စာချုပ်ဝင် တစ်ဖက်ဖက်ကစာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်သဖြင့် တစ်ဖက်ဖက်ကပြင်ဆင်ရန်အကြောင်းကြားသော်လည်း ရက်ပေါင်း(၃၀)အတွင်း ပြင်ဆင်ခြင်းမပြုသည့်အခါ

(၂) အငှားချထားခြင်းခံရသူသည် လူမွဲအဖြစ်ခံယူသည့်အခါ

(၃) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် မလွန်ဆန်နိုင်သော ဖြစ်ရပ်တစ်ခုသည် (၆–လ) ထက်ကျော်လွန်ဖြစ်ပွားနေသည့်အခါ

(၄) စာချုပ်ကိုရပ်စဲရန် နှစ်ဦးနှစ်ဖက်သဘောတူသည့်အခါ

(ခ) အထက်ပါအကြောင်းများကြောင့် စာချုပ်ကိုရပ်စဲသည့်အခါဆောင်ရွက်ပြီးစီးသော လုပ်ငန်းများအတွက် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်နစ်နာဆုံးရှုံးမှုမရှိစေရန် ညှိနှိုင်းဆောင်ရွက်သွားရမည်။

(ဂ) အငှားချထားခြင်းခံရသူက စာချုပ်ပါစည်းကမ်းများဖေါက်ဖျက်၍ စာချုပ်ကိုရပ်စဲခြင်းကြောင့် အငှားချထားသူက အငှားချထားခြင်းခံရသူထံမှ ရရန်ရှိသောမြေငှားခများ၊ လျော်ကြေးများ ရယူပိုင်ဆိုင်ခွင့်ကို မထိခိုက်စေရ။

၁၄။ **မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

(က) ဤစာချုပ်အရ ဆောင်ရွက်ရမည့်တာဝန်ဝတ္တရားများကို မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် တစ်စိတ်တစ်ဒေသဖြစ်စေ၊ လုံးဝဖြစ်စေ၊ မထမ်းဆောင်နိုင်လျှင် ထိုသို့မထမ်းဆောင်နိုင်သူက အခြားတစ်ဖက်သို့(၁၅)ရက်အတွင်း ထိုမလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်ကြောင်းကို အသေးစိတ်စာဖြင့် ရေးသားအကြောင်းကြားရမည်။ အခြားတစ်ဖက်က လက်ခံအတည်ပြုလျှင်တာဝန်ဝတ္တရားများထမ်းဆောင်ခြင်းကို ထိုမလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ကြန့်ကြာမှုအတွက် မည်သူ့တွင်မျှတာဝန်မရှိစေရ။

(ခ) မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝဘေးဒုက္ခများ၊ လျှင်လှုပ်ခြင်း၊ သပိတ်မှောက်ခြင်း၊ ပိတ်ဆို့မှုများသူပုန်ထခြင်း၊ အဓိကရုဏ်းဖြစ်ခြင်း၊ အရပ်ဖက်နှောက်ယှက်ဖျက်စီးခြင်း၊ ပေါက်ကွဲမှုဖြစ်ခြင်း၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မုန်တိုင်းတိုက်ခတ်ခြင်းနှင့် အခြားအလားတူ အကြောင်းများဖြစ်ပြီး စာချုပ်ဝင်ပုဂ္ဂိုလ်များ၏ထိုက်သင့်သော ဂရုပြုမှု၊ ခွဲလုံ့လတို့နှင့် ထိန်းချုပ်၍မရဘဲကျော်လွှားရန် မတတ်စွမ်းနိုင်သောဖြစ်ရပ်များကို ဆိုလိုပါသည်။

၁၅။ **ခုံသမာဓိဖြင့် ဆုံးဖြတ်ခြင်း(အနုညာတစီရင်ခြင်း)**

(က) အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့အကြား စာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက ရှေးဦးစွာနှစ်ဦးနှစ်ဖက်အကြား ကောင်းစွာမျှတသော ပြေလည်မှုရရှိစေရေးအတွက် ညှိနှိုင်းခြင်းဖြင့် ပြေလည်အောင်ဆောင်ရွက်ရမည်။

(ခ) နှစ်ဦးနှစ်ဖက်အကြား အငြင်းပွားမှုကို ပြေလည်အောင်မဖြေရှင်းနိုင်ပါက ထိုအငြင်းပွားမှုကိုအနုညာတနည်းအားဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံမြစ်ကြီးနားမြို့တွင် ဖြေရှင်းရမည်။ အနု ညာတခုံသမာဓိ တစ်ဦးစီကို စာချုပ်ဝင်တစ်ဖက်စီကခန့်ထားပြီး ထိုအငြင်းပွားမှုကိုဖြေရှင်းပါလျှက် အငြင်းပွားမှုမပြီးပြတ်ပါက ခုံသမာဓိနှစ်ဦးက နောက်ဆုံးအဆင့်ခုံသမာဓိလူကြီး (Umpire) တစ်ဦးကို နှစ်ဦးသဘောတူ ရွေးချယ်ဆုံးဖြတ်စေရမည်။ အနုညာတခုံဖြင့် ဆောင်ရွက်ရာတွင် ၁၉၄၄ ခုနှစ် အနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (၁၉၄၄ ခုနှစ် မြန်မာ နိုင်ငံအက်ဥပဒေအမှတ်–၄) ပြဌာန်းချက်နှင့်အညီ ဆောင်ရွက်ရမည်။

၁၆။ **စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်း**

ဤစာချုပ်အားစာဖြင့် နှစ်ဦးနှစ်ဖက်သဘောတူညီမှုမရရှိဘဲ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းလုံးဝမပြုလုပ်ရ။သို့သော်ခိုင်မာသောကိစ္စတစ်ရပ်ရပ်ကြောင့် ဤစာချုပ်ပါပြင်ဆင်ရန် လိုအပ်ပါက နှစ်ဦးနှစ်ဖက်စာဖြင့် သဘောတူညီချက်ရယူ၍ လိုအပ်သလို ပြင်ဆင်ဖြည့်စွက်နိုင်သည်။ ဤသဘောတူစာချုပ်အားပြင်ဆင်ဖြည့်စွက်ချက်အရပ်ရပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာအတည်ဖြစ်သည်။

၁၇။ စာပေးစာယူပြုလုပ်ရန်လိပ်စာများ

အငှားချထားခြင်းခံရသူနှင့် အငှားချထားသူတို့အကြားဆက်သွယ်ခြင်း အကြောင်းကြားစာပေးပို့ခြင်းများကို အောက်ပါလိပ်စာအတိုင်း လိပ်မူရမည်။

| <u>အငှားချထားသူအတွက်</u> | <u>အငှားချထားခြင်းခံရသူအတွက်</u> |
|---|---|
| ကေအိုင်အိုဆက်ဆံရေးအရာရှိ | မန်နေဂျင်းဒါရိုက်တာ |
| ကေအိုင်အိုဗဟိုစီးပွားရေးအဖွဲ့ | ဘူးဂါးကုမ္ပဏီလီမိတက် |
| ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့။ | ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့။ |

၁၈။ **နောက်ဆက်တွဲများ**

ဖော်ပြပါနောက်ဆက်တွဲပုံစံများ မြေပုံများသည် ဤစာချုပ်၏တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။

၁၉။ **အထွေထွေ**

ဤစာချုပ်သည် ယခင်ကအချင်းချင်းသဘောတူညီမှုများ နားလည်မှုများအားလုံးကို လွှမ်းမိုးစေရမည်။

အထက်ပါအချက်အလက်များကို သိရှိနားလည် သဘောတူလက်ခံကြသည့်အတိုင်း စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် မြစ်ကြီးနားမြို့၌ အထက်တွင် ဖော်ပြရေးသားထားသည့် (   )ရက်၊ (   )လ၊ နှင့် ခုနှစ်(   )ခုနှစ်တွင် အောက်ပါအသိသက်သေ လူကြီးမင်းများရှေ့၌ မိမိတို့၏တံဆိပ်များကိုရိုက်နှိပ်လျှက် လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

| | |
|---|---|
| <u>အငှားချထားသူကိုယ်စား</u> | <u>အငှားချထားခြင်းခံရသူကိုယ်စား</u> |
| **ကေအိုင်အို(ဗဟို)စီးပွားရေးအဖွဲ့** | **ဘူးဂါးကုမ္ပဏီလီမိတက်** |
| | (ဒေါက်တာ လဂျာ) |
| ( ဦးဇော်ရော် ) | မန်နေဂျင်းဒါရိုက်တာ |
| ကေအိုင်အိုဆက်ဆံရေးအရာရှိ | ဘူးဂါးကုမ္ပဏီလီမိတက် |
| မြစ်ကြီးနားမြို့ | ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့။ |

အသိသက်သေများ

| (၁) | | (၂) | |
|---|---|---|---|
| လက်မှတ် | ------------------------ | လက်မှတ် | ------------------------ |
| အမည် | ဦးလအောင် | အမည် | ဦးလတောင် |
| ရာထူး | ကေအိုင်အိုရုံးအဖွဲ့ဝင် | ရာထူး | ရုံးမန်နေဂျာ |
| လိပ်စာ | မြစ်ကြီးနားမြို့ | လိပ်စာ | ဘူးဂါးကုမ္ပဏီလီမိတက်<br>မြစ်ကြီးနားမြို့ |

# BU GA COMPANY LIMITED.

No.120, 121, 122, Waizayantar Garden Housing,
Waizayantar Road, Thingangyun Township, Yangon, Myanmar.
Tel : (01) 571981, 571982, 700151 Fax : 095-01-579736


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်
ရန် ကုန် မြို့။

နေ့စွဲ၊ ၁၉၉၉ ခုနှစ်၊ ဇူလိုင်လ ( ၈ ) ရက်

အကြောင်းအရာ။ ။ <u>မြေငှား စာချုပ် ပေး ပို့ခြင်း</u>

ကချင်ပြည်နယ်၊ မြစ်ကြီး နား မြို့တွင် ရုံး တည် ရှိ သော ကေအိုင်အို ဗဟိုစီးပွါး ရေး အဖွဲ့ ( နောင်တွင်အငှား ချထားသူ ) နှင့် ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့၊ ယုဇန - ရပ်ကွက် အမှတ် ( ၄၄၆ ) တွင် ရုံးတည်ရှိ သော ဘူးဂါးကုမ္ပဏီလီမိတက် ( နောင် တွင် အငှားချထားခြင်းခံရသူ ) သည် ကချင်ပြည်နယ်၊ ဗန်း မော်ခရိုင်၊ မိုးမောက်မြို့နယ်၊ ကျခန်းဒတ် ကျေးရွာရှိ မြေဧရိယာအကျယ်အဝန်း ( ၃.၄၄ ) ဧကအတွက် သစ်အ ခြေခံ ကုန် ချောစက် မှုလုပ်ငန်း နယ် မြေအဖြစ် ချုပ်ဆိုသည့် မြေငှားစာချုပ်အား - နှစ်ဦးနှစ်ဖက်သဘောတူညီလက်မှတ် ရေးထိုးပြီး ပူးတွဲပါအတိုင်း ပေးပို့အပ်ပါသည်။

လေးစား စွာဖြင့်

Dr. LA JA
(Managing Director)
Bu Ga Co., Ltd.

**ကေအိုင်အို(ဗဟို)စီးပွားရေးအဖွဲ့**

**နှင့်**

**ဘုးဂါးကုမ္ပဏီလီမိတက်**

တို့အကြားချုပ်ဆိုသည့်

" မြေငှားစာချုပ် "

ဤမြေငှားစာချုပ်ကို ၁၉၉၉ ခုနှစ်၊ ဇူလိုင်---လ၊( ၈ )ရက်နေ့၌ ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့ ရုံးတည်ရှိပြီး ဤစာချုပ်အလို့ငှာ ကေအိုင်အိုဗဟိုစီးပွားရေးအဖွဲ့၏ကိုယ်စား ဦးဇော်ရော် ကေအိုင်အိုဆက်ဆံရေးအရာရှိ (နောင်တွင် "အငှားချထားသူ"ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏ ဆက်ခံသူများ၊ ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များပါဝင်သည်)က တစ်ဖက် နှင့်

ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့၊ ယုဇနရပ်ကွက် အမှတ်(၄၄၆)တွင် ရုံးတည်ရှိပြီး ဤစာချုပ် အလို့ငှာ မန်နေဂျင်းဒါရိုက်တာဒေါက်တာလဂျာက ကိုယ်စားပြုသော "ဘုးဂါးကုမ္ပဏီလီမိတက်"(နောင်တွင် "အငှားချထားခြင်းခံရသူ"ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏ဆက်ခံသူများ၊ ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများနှင့်တရားဝင် ကိုယ်စားလှယ်များပါဝင်သည်)က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက် များနှင့်အညီ ဤစာချုပ်ကိုချုပ်ဆိုကြပါသည်။

၁။ **ရည်ရွယ်ချက်**

ဤစာချုပ်ကို ချုပ်ဆိုသည့်ရည်ရွယ်ချက်မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) "အငှားချထားခြင်းခံရသူ"သည် ကချင်ပြည်နယ်၊ ဗန်းမော်ခရိုင်၊ မိုးမောက်မြို့နယ်၊ ကျခန်းဒတ် ကျေးရွာရှိ အငှားချထားသူပိုင်ဆိုင်သော "သစ်အခြေခံစက်မှုလုပ်ငန်းနယ်မြေ" တွင် မြေ ဧရိယာအကျယ်အဝန်း(၂၀.၁၂)ဧကအနက် (၃.၄၄)ဧကကိုငှားရမ်း၍ သစ်အခြေခံကုန်ချော စက်ရုံကိုတည်ဆောက်ပြီး၊ ကျွန်း၊ သစ်မာ အမျိုးအစားကိုအသုံးပြု၍ သစ်အခြေခံတန်ဘိုး မြှင့် ကုန်ချောပစ္စည်းများနှင့် ပရိဘောဂများကို ထုတ်လုပ်သွားရန် ရည်ရွယ်ပါသည်။ ငှားရမ်းမည့် မြေနေရာ၏မြေပုံကို နောက်ဆက်တွဲ(က)အဖြစ် ပူးတွဲထားရှိပါသည်။

(ခ) အငှားချထားသူက ဤစာချုပ်၏နောက်ဆက်တွဲ(က)အဖြစ် ပူးတွဲထားသော အတည်ပြုပြီး မြေပုံပါမြေဧရိယာ(၂၀.၁၂)ဧကအနက် (၃.၄၄)ဧက မြေနှင့်စပ်လျဉ်း၍ တရားဝင်ပိုင်ဆိုင် ကြောင်း အာမခံပါသည်။

၂။ **အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့သည် သက်ဆိုင်ရာဥပဒေများအရ ဖွဲ့စည်းထား သည့် အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူများဖြစ်ပြီး ဤမြေငှားစာချုပ်ပါ လုပ်ငန်းကို လုပ်ကိုင်ခွင့်ရရှိသော ပုဂ္ဂိုလ်များဖြစ်ကြောင်းနှင့် ဤစာချုပ်ကိုအခွင့်အာဏာရှိသူများ၊ငွေကြေး အင်အားတောင့်တင်းသူများဖြစ်ကြောင်း အသီးသီးတင်ပြတာဝန်ယူကြပါသည်။

၃။ **လုပ်ငန်းဆောင်နှင့်လုပ်ဆောင်မှုဖြစ်စဉ်**

စီမံကိန်းလုပ်ငန်းစဉ်အကျဉ်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) အငှားချထားခြင်းခံရသူသည် ကချင်ပြည်နယ်၊ ဗန်းမော်ခရိုင်၊ မိုးမောက်မြို့နယ်၊ ကျခန်းဒတ် ကျေးရွာရှိကွင်းအမှတ်အိုင်အက်စ်အက်စ်တွင် သစ်အခြေခံကုန်ချောစက်ရုံကို တည်ဆောက်ပြီး ကျွန်း၊ သစ်မာသစ်မျိုးများကိုအသုံးပြု၍သစ်အခြေခံတန်ဘိုးမြှင့် ကုန်ချောပစ္စည်းများနှင့်ပရိဘောဂများကို ထုတ်လုပ်သွားမည်ဖြစ်ပါသည်။

(ခ) ထုတ်လုပ်မည့်ပစ္စည်းများမှာ –

ကျွန်း၊ သစ်မာများကို အသုံးပြု၍

(၁) ကျောင်းသုံးပရိဘောဂများ

(၂) ကြမ်းခင်းတုံးများ

(၃) ဥယျာဉ်သုံးပရိဘောဂများ

(၄) အိမ်သုံးပရိဘောဂများ၊ မီးဖိုချောင်သုံးပရိဘောဂများနှင့် ပရိဘောဂအစိတ်အပိုင်းများ

(ဂ) အငှားချထားခြင်းခံရသူမှ အဆိုပါမြေကေပေါ်တွင် စီမံကိန်းမတည်ရင်းနှီးငွေကျပ်သန်း (၂၀၀)ကို ရင်းနှီးမြှုပ်နှံ၍ စက်ရုံကိုတည်ဆောက် လုပ်ဆောင်သွားမည် ဖြစ်ပါသည်။

(ဃ) ကနဦးစီမံကိန်းကာလအဖြစ် (၃၀)နှစ်သတ်မှတ်၍ နောက်ထပ်(၅)နှစ်(၂)ကြိမ် သက်တမ်းတိုးမြှင့်ပြီး စုစုပေါင်းစီမံကိန်းကာလကို (၄၀)နှစ်သတ်မှတ်ပါသည်။

(င) နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံကော်မရှင်၏ အတည်ပြုချက်ဖြင့် ဆက်လက်ဆောင်ရွက်သွားရန်ဖြစ်သည်။

၄။ **မြေငှားခြင်းအတွက် ငွေပေးသွင်းမှုနှင့် စည်းကမ်းသတ်မှတ်ချက်များ**

(က) အငှားချထားခြင်းခံရသူသည် မြန်မာနိုင်ငံသားပိုင် ရင်းနှီးမြှုပ်နှံမှုကုမ္ပဏီဖြစ်၍ မြေငှားရမ်းခ(Annual Ground Rent)အဖြစ် မြေနေရာ (၃.၄၄)ဧကကို တနှစ်အတွက် တစ်ဧကလျှင် ၅၀၀ိ/–သတ်မှတ်၍ ကျပ်(၂၀၆၀၀) (ကျပ် နှစ်သောင်းခြောက်ရာတိတိ)ကို ကေအိုင်အိုဗဟို စီးပွားရေးအဖွဲ့သို့ နှစ်စဉ်ပေးသွင်းရမည်။

(ခ) အထက်အပိုဒ်ခွဲ(က)ပါ မြေငှားရမ်းခများကို အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ သက်ဆိုင်ရာဘဏ္ဍာနှစ်၏ နောက်ဆုံးသုံးလဖြစ်သည့် ဇန်နဝါရီလမှ မတ်လအတွင်း နှစ်စဉ်ကြိုတင်ပေးသွင်းရမည်။

(ဂ) အပိုဒ်(က)ပါ မြေငှားရမ်းခကို (၅)နှစ်လျှင်တစ်ကြိမ်စီစစ်၍ ညှိနှိုင်းသတ်မှတ်သွားမည် အကယ်၍ အဆိုပါငှားရမ်းခကို တိုးမြှင့်ပါက တိုးမြင့်လာမည့် နှစ်စဉ်ငှားရမ်းခနှုန်းသည် နောက်ဆုံးပေးဆောင်လျှက်ရှိသော ငှားရမ်းခနှုန်းထက်(၁၅%)ထက်မပိုစေရ။

၅။ **အငှားချထားသူ၏တာဝန်ဝတ္တရားများ**

"အငှားချထားသူ" သည်

(က) အငှားချထားခြင်းခံရသူက လိုအပ်သောခွင့်ပြုချက်များ မှတ်ပုံတင်များ၊ လိုင်စင်များ၊ အခြား လိုအပ်သည့်အချက်အလက်များကို သက်ဆိုင်ရာပြည်ထောင်စုမြန်မာနိုင်ငံတော်၏ အဖွဲ့အစည်းများထံမှ ရယူရာတွင်ကူညီဆောင်ရွက်ပေးရန်။

(ခ) အငှားချထားခြင်းခံရသူက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံမှ စီမံကိန်းဆိုင်ရာလုပ်ငန်းများအတွက်အခွန်အခကင်းလွတ်ခွင့်နှင့် သက်သာခွင့်လျှောက်ထားရာတွင်ကူညီဆောင်ရွက်ပေးရန်။

(ဂ) မြေခွန်ကို ပေးဆောင်ရန်။

၆။ **အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ**

အငှားချထားခြင်းခံရသူသည်–

(က) ငှားရမ်းထားသည့်မြေပေါ်တွင် အငှားချထားသူက အတည်ပြုပြီးသော ပုံစံ၊ ဒီဇိုင်းများနှင့်အညီ အဆောက်အဦးများအပါအဝင်၊ အခြားမြို့ပြအင်ဂျင်နီယာလုပ်ငန်းအားလုံးကို တည်ဆောက်ရန် အကယ်၍ အဓိကပြုပြင်ပြောင်းလဲမှုများ ပြုလုပ်ရန်လိုအပ်ပါက အငှားချထားသူထံမှစာဖြင့် ကြိုတင်သဘောတူညီချက်ရရှိပြီးမှသာ ဆောင်ရွက်ရမည်။

(ခ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက်ရလျှင်ရခြင်း လုပ်ငန်းအတွက် လိုအပ်သော ပြင်ဆင်မှုများကို စတင်ဆောင်ရွက်ရမည်။

(ဂ) ဤစာချုပ်ပါ ရင်းနှီးမြှုပ်နှံမှုနှင့် စီးပွားရေးလုပ်ဆောင်မှု အားလုံးကို ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများနှင့်အညီ အကောင်အထည်ဖော်ရမည်။

(ဃ) အငှားချထားသူ(သို့မဟုတ်) ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရသို့ ဤစာချုပ်အရ အကျိုးဝင်သော လုပ်ဆောင်မှုများနှင့်ပတ်သက်၍ သတင်းအချက်အလက်များကို မြန်မာနိုင်ငံအက်ဥပဒေအရ အကြောင်းအားလျော်စွာ တောင်းခံလာတိုင်း တင်ပြရမည်။

(င) မြေငှားရမ်းခများကိုသတ်မှတ်နှုန်းထားနှင့် သတ်မှတ်သောနည်းလမ်းများအတိုင်း အတိအကျ ပေးချေရမည်။

(စ) တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ အစိုးရ၏ အထူးခွင့်ပြုချက်မရရှိသေးလျှင် မြေငှားစာချုပ်တွင် တည်ဆဲတံဆိပ်ခေါင်းဥပဒေအရ တစ်နှစ်လုံးပျှမ်းမျှ ငှားရမ်းခ၏၅%နှင့် ညီမျှသော တံဆိပ်ခေါင်းခွန်ကို ထမ်းဆောင်ရမည်။

(ဆ) စာချုပ်စာတမ်းမှတ်ပုံတင်အက်ဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ မှတ်ပုံတင်၍ ဆောင်ရွက်ရမည်။

(ဇ) အငှားချထားခြင်းခံရသူက နိုင်ငံတော်အဖွဲ့အစည်းများသို့ ပေးချေရမည့်အခွန်အခများ အနက် နိုင်ငံခြားငွေဖြင့်ရရှိသော ဝင်ငွေများကို နိုင်ငံခြားငွေဖြင့်လည်းကောင်း၊ မြန်မာကျပ်ငွေဖြင့် ရရှိသောဝင်ငွေများကို မြန်မာကျပ်ငွေဖြင့်လည်းကောင်း ပေးချေရမည်။

၇။ စာချုပ်စတင်အကျိုးသက်ရောက်သောနေ့

ဤစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အပြည်ပြုချက်ရရှိပြီးနောက် အသိသက်သေများရှေ့တွင် နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးသော နေ့ရက်မှစတင်အကျိုးသက်ရောက်မှု ရှိစေရမည်။ မြေငှားသက်တမ်းကို စာချုပ်စတင်အကျိုးသက်ရောက်သောနေ့မှ စတင်ရေတွက်သတ်မှတ်ပါမည်။ သို့သော် စီမံကိန်းလုပ်ငန်းသက်တမ်း ကာလကနဦး(၃၀)နှစ်ကို မြေငှားစာချုပ်စတင် အကျိုးသက်ရောက်သောနေ့မှ စတင်ရေတွက်သွားမည်။

၈။ ၂မြေငှားသက်တမ်းကုန်ဆုံးသည့်အခါ ဆောင်ရွက်မည့်အစီအစဉ်

အငှားချထားခြင်းခံရသူသည် မြေငှားသက်တမ်းကုန်ဆုံးသည့်အခါ အငှားချထားသည့်မြေကို အဖိုးစားနားမပါဘဲ အငှားချထားသူသို့ ပြန်လည်လွှဲပြောင်းပေးရမည်။ အငှားချထားသည့်မြေပေါ်တွင် မိမိစရိတ်ဖြင့်ဆောက်လုပ်ခဲ့သည့် ပရိဘောဂစက်ရုံအဆောက်အဦများနှင့်တကွ ဆက်နွယ်နေသောပစ္စည်းများကို မိမိတို့၏အစုရှင်များ၏ သဘောတူဆုံးဖြတ်ချက်များနှင့်အညီ အောက်ပါနည်းလမ်းတစ်ရပ်ရပ်ကို ဆုံးဖြတ်ဆောင်ရွက်ရမည်။

(က) အငှားချထားသူက ဆက်လက်ငှားရမ်းခွင့်ပြုလိုသည့် အစုရှင်တစ်ဦးဦးအား ဒါရိုက်တာအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်ဖြင့် အဖိုးစားနားသတ်မှတ်၍ လွှဲပြောင်းရောင်းချခြင်း။

သို့မဟုတ်

(ခ) အဖိုးစားနားသတ်မှတ်ခြင်းမပြုဘဲ အငှားချထားသူသို့ လွှဲပြောင်းပေးခြင်းကို ဆောင်ရွက်ခွင့်ရှိစေရမည်။

၉။ စာချုပ်ပြီးဆုံးခြင်း

ဤစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ စာချုပ်ပါလုပ်ငန်းများကို အငှားချထားခြင်းခံရသူက အပြည့်အဝပြီးဆုံးအောင် ဆောင်ရွက်ပြီး၍ အငှားချထားသူ၏ အတည်ပြုချက်ရရှိပြီးသည့်အခါ စာချုပ်ပြီးဆုံးသည်ဟု မှတ်ယူရမည်။

၁၀။ ကြိုတင်စည်းကမ်းသတ်မှတ်ချက်

ဤစာချုပ် အကျိုးသက်ရောက်မှုသည် ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း သက်ဆိုင်ရာအစိုးရအာဏာပိုင်များထံမှ လိုအပ်သည့်သဘောတူညီချက်၊ ခွင့်ပြုချက်များ ရရှိပြီးမှပေါ်တွင် တည်ရှိပါသည်။

၁၁။ ပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်ခြင်း

အငှားချထားခြင်းခံရသူသည် ရေဆိုးများ ရေသန့်စင်စေရန် စီမံခြင်း၊ ရေလွှတ်စနစ်များ ထားရှိခြင်းတို့ကို ပြည်ထောင်စုမြန်မာနိုင်ငံတော်ဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၁၂။ ဓါတ်သတ္တုအရင်းအမြစ်များ

ဤစာချုပ်ပါ ငှားရမ်းကာလအတွင်း ငှားရမ်းထားသည့် မြေမှဓါတ်သတ္တု အရင်းအမြစ်များ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းအနုပညာနှင့် ယဉ်ကျေးမှုပစ္စည်းများကို မမျှော်လင့်ဘဲတွေ့ရှိလျှင် ထိုပစ္စည်းများကို အငှားချထားခံရသူသည် သက်ဆိုင်ရာမြန်မာနိုင်ငံအစိုးရအဖွဲ့အစည်းများသို့ လွှဲပြောင်း

